# كيْفيّة إهداء الثواب إلى الأموات

## في ضوء الكتّاب والسنة

## ကွယ်လွန်သူများထံ ကုရ်အာန်၊စွန္နဟ်နှင့်အညီ စဝါးဗ်ပို့သနည်းများ


جمع وتأليف:

الشيخ شاهد نور الإسلام

رئيس هيئة شؤون القرآن والسنة (المركزية)

جمهورية اتّحاد ميانمار, مدينة يانجون

ورئيس هيئة العلماء للمجلس الأعلى للشؤون الإسلامية

جمهورية اتّحاد ميانمار, مدينة يانجون

ရေးသားပြုစုသူ

ဆရာရှိုင်ခ် ရှာဟိဒ် (MEDIU)

## စာရေးသူ၏အမှာ

ကျွန်တော်ငယ်စဉ်က နေထိုင်ခဲ့သည့် မွတ်စ်လင်မ် အသိုင်းအဝိုင်းတစ်ခုလုံးသည် ဖွာသိဟတ်၊ မောင်ဝ်လူးဒ်၊ ကုရ် အာန်ခသာမ် ဓလေ့ရှိသည့် ပတ်ဝန်းကျင်ဖြစ်ပါသည်။ လူတစ်ဦး သေဆုံးပြီးဆိုသည်နှင့် (၃)ရက်ခသာမ်ဖတ်ကြသည်။ အသေး စားခသာမ်ဖြစ်၍ ကုရ်အာန်ခသာမ်မဟုတ်ဘဲ ယာစီးန်ခသာမ် ဖတ်သည်ဟုခေါ်ကြသည်။ ပြီးနောက် အကျဉ်းချုံး ကျွေးမွေးကြ သည်။ တစ်ဖန် ၇-ရက်မြောက်သည့်နေ့တွင် ကုရ်အာန်ခသာမ် ဖတ်ပြန်သည်။ ကျယ်ကျယ်ပြန့်ပြန့် အကျွေးအမွေးလုပ်ကြ သည်။ ထို့နောက် ရက်(၄၀)တွင် ကုရ်အာန်ခသာမ် ဖတ်ကြ သည်။ အတော်ကျယ်ကျယ်ပြန့်ပြန့် အကျွေးအမွေးလုပ်ကြပြန် သည်။ တတ်စွမ်းနိုင်သူတို့ကမူ နှစ်လည်ခသာမ်ဖတ်ကြသည်။ အမှန်တကယ် ထိုသို့ ကုရ်အာန်ခသာမ်ဖတ်၍ ကွယ်လွန်သူများ ထံ စဝါးဗ်ပို့သသောလုပ်ရပ်သည် ကောင်းသောကိစ္စရပ်ဖြစ်ခဲ့ပါ က မုချ တမန်တော်မြတ်ကြီး ﷺ နှင့် စွဟာဗဟ်သာဝကကြီး များ၊ သာဗေအီးန်ကြီးများသည် ယင်းကိစ္စကို မလွဲကေန် လုပ်ခဲ့

ကြမည်သာဖြစ်သည်။ သို့သော်လည်း ထိုသို့ သောခသောမ်ပွဲမျိုး၊ အခမ်းအနားမျိုးလုပ်ရန် တမန်တော်မြတ်ကြီး ﷺ ၏ ကျင့်ထုံးများ၌ လာရှိထားခြင်းမရှိသကဲ့သို့ စွဟာဗဟ်သာဝကကြီးများ၏ အမလ်ကျင့်သုံးမှုများ၌လည်း မတွေ့ရပါ။ ဤကိစ္စအားလုံးသည် လူတစ်စုဝမ်းစာရှာရန်နှင့် စီးပွားရှာရန်အတွက် ဖန်တီးထားခြင်း ဖြစ်ပြီး၊ လူအများ၏ ဥစ္စာပစ္စည်းကို ပျက်စီးဆုံးရှုံးစေသည့် အကြောင်းတရားများသာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ကျမ်းမြတ်ကုရ်အာန်ကို အသက်နှင့်ကိုယ် ဖြစ်တည်လျက်ရှိနေသူ၊ အသက်ထင်ရှားရှိနေသူတို့အတွက် ချပေးထားခြင်းဖြစ်ပြီး ကွယ်လွန်သေဆုံးသွားသူများအတွက် ချပေးထားခြင်းမဟုတ်ပေ။ ကုရ်အာန်ကျမ်းမြတ်သည် သင့်ဘဝ၏ ရည်မှန်းချက်ပန်းတိုင်၊ လမ်းညွှန်၊ အသင့်ခွန်အား၊ အစွမ်းသတ္တိထွက်ပြူရာဌာန ဖြစ်သည်။ ကုရ်အာန်ကျမ်းတော်မြတ်တွင် အရှင်မြတ်က ဤသို့ မိန့်ကြားထားတော်မူ၏။

كِتَابٌ أَنزَلْنَاهُ إِلَيْكَ مُبَارَكٌ لِّيَدَّبَّرُوا آيَاتِهِ وَلِيَتَذَكَّرَ أُولُو الْأَلْبَابِ ﴿﴾

"(ဤသည်) အသင်၏ထံသို့ငါ့အရှင်မြတ်ချပေးတော်မူခဲ့သော ဗရကာသ်မင်္ဂလာနှင့် ပြည့်စုံသည့် ကျမ်းတစ်ကျမ်း ဖြစ်သည်။ လူများသည် ထိုကျမ်း၏အာယသ်တော်များကို စဉ်းစားကြရန်နှင့် အသိဉာဏ်ရှိသည့်သူများသည် တရားရယူကြရန်အတွက် (ချပေးတော်မူခြင်း)ဖြစ်သည်။"[၁]

စွဟာဗဟ်သာဝကကြီးများသည် အထက်အာယသ်ပါ လမ်းညွှန်ချက်အတိုင်း ကုရ်အာန်ကျမ်းမြတ်လာ ရှောင်ရန်ဆောင်ရန်များကို လက်တွေ့ကျင့်သုံးလိုက်နာခဲ့ကြသည့်အတွက် ၎င်းတို့သည် ကမ္ဘာလောက၌ သိက္ခာအရှိဆုံးနှင့် သာယာလှပသောဘဝများကို ပိုင်ဆိုင်ခဲ့ကြသူများ ဖြစ်ခဲ့ကြပါသည်။ ထို့အတူ ကုရ်အာန်ကျမ်းတော်မြတ်၌ အလ္လာဟ်အရှင်မြတ်က ကုရ်အာန်ချပေးရခြင်း၏ ရည်ရွယ်ချက်ကို ယခုလို မိန့်ကြားထားပြန်သည်။

لِيُنذِرَ مَن كَانَ حَيًّا وَيَحِقَّ الْقَوْلُ عَلَى الْكَافِرِينَ

"(ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ထုတ်ပြန်တော်မူခြင်းမှာ)ထိုတမန်တော်မြတ်သည် (စိတ်နှလုံး)ရှင်သူတို့အား သတိပေးနှိုးဆော်အံ့သောငှာလည်းကောင်း၊ ကာဖိရ်သွေ့ဖည်

---

၁ - ကုရ်အာန် ၃၈း၂၉။

ငြင်းပယ်သောသူတို့အပေါ် စွပ်စွဲချက် အတည်ဖြစ်အံ့သောငှာ လည်းကောင်း၊ ဖြစ်ချေသတည်း။)[၂]

ယင်းအာယသ်တော်၌ အလ္လာဟ်အရှင်မြတ်သည် ရှင်နေသူများအဖို့ သတိပေးနှိုးဆော်ရန်အလို့ငှာ ကုရ်အာန်ကျမ်းတော်မြတ်အား ချပေးခဲ့ခြင်းဖြစ်သည်ဟု မိန့်ကြားထားသည်ကို တွေ့ရမည်ဖြစ်သည်။ သို့သော်ငြားလည်း ယနေ့တွင် မွတ်စ်လင်မ်တစ်ဦးနှင့် ကျမ်းမြတ်ကုရ်အာန်အကြား ဆက်ဆံရေးမှာကား အသက်နှင့်ကိုယ်ရပ်တည်ကာ ဘဝရှင်သန်ရေး အတွက်မဟုတ်ဘဲ သေဖို့အတွက်ဖြစ်နေသည်ကိုသာ တွေ့ရှိရပေသည်။ လောကီလူမှုကိစ္စစခန်းသိမ်း၍ သေခြင်းတရား၏ နယ်နိမိတ်အတွင်း ဝင်ရောက်ချိန် သေငယ်ဇောနှင့်မျောနေချိန်၊အသက်လုရှူနေရချိန်တွင် အသင့်ကို ကုရ်အာန်ကျမ်းတော်မြတ် ဖတ်ပြနေကြသည်။ အသင် လွယ်လွယ်ကူကူ အသက်ထွက် သွားစေရန်ဖြစ်ပါသည်။ ဝမ်းနည်းစရာပင်မဟုတ်ပါလား။

ကွယ်လွန်သူများအတွက် အကျိုးစဝါးဗ်ပေးပို့ရန် သို့မဟုတ် ရရှိစေရန် တမန်တော်မြတ် ﷺ ညွှန်ကြားပြသခဲ့သော နည်း

---

၂- ကုရ်အာန် ၃၆း၇၀)

လမ်းများတွင် ကုရ်အာန်ခသာမ်ဖတ်၍ စဝါးဗ်ပို့သသောနည်း လုံးဝ ပါဝင်ခြင်းမရှိပါ။ ထို့အတူ ကွယ်လွန်သူများအား စဝါးဗ်ပို့ သရာ၌ များစွာသော အထောက်အထားမဲ့ လုပ်ရပ်များသည် လည်း မွတ်စ်လင်မ်များအကြား ရေပန်းစားလာနေသည်ကို တွေ့ရှိရ၍ ကျွန်ုပ်အနေဖြင့် မြန်မာမွတ်စ်လင်မ်ရုံးကလေးဗလီ၌ ဟောကြားခဲ့သည့် "ကုရ်အာန် – စွန္နဟ်နည်းကျ စဝါးဗ်ပို့သနည်း များ" ဟူသည့် ခေါင်းစဉ်ကိုပင် မြန်မာမွတ်စ်လင်မ်လူထုအကျိုး ရှိစေရန်အလို့ငှာ စာတမ်းငယ်တစ်ခုအဖြစ် ရေးသားထုတ်ဝေ လိုက်ရခြင်း ဖြစ်ပါသည်။ ထိုသို့ရေးသားရာတွင် အီစွာလေ စဝါးဗ်နှင့် ပတ်သက်ပြီး ရေးသားထုတ်ဝေထားကြသည့် အရဗီ ကျမ်းများ၊အူရ်ဒူကျမ်းများနှင့် မြန်မာဘာသာဖြင့်ရေးသားထား သည့်ကျမ်းများကိုလည်း မှီငြမ်းကိုးကားထားပါသည်။ အလ္လာဟ် အရှင်မြတ် ကျွန်ုပ်တို့အားလုံးအား ကုရ်အာန် – စွန္နဟ်နှင့်အညီ ဘဝဆောက်တည်နိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။

အာမီန်း

**ဆရာ ရှိုင်ခ်ရှာဟိဒ်** (MEDIU)

# ကျမ်းဦးစကား

ကွယ်လွန်သူအပေါ် အကျိုးစဝါးဗ်ပေးပို့ရန် ကုရ်အာန်-စွန္နဟ်တော်လာနည်းလမ်း(၃)ခုရှိသည်။

**၁-ဒုအာဆုမွန်တောင်းခံပေးခြင်း။**

**၂-စွဒ်ကဟ်ဂျာရီယဟ်စဉ်ဆက်မပြတ်သောအလှူဒါနပြုခြင်း။**

**၃-ကိုယ်စားပြု၍ ကုသိုလ်ကောင်းမှု ပြုပေးခြင်း။**

ဒုအာနှင့်ပတ်သက်၍ အစ္စလာမ့်ပညာရှင်များအကြား အကွဲအလွဲမရှိကြသလို စွဒ်ကဟ်နှင့်ပတ်သက်၍လည်း ပညာရှင်များအကြားအကွဲအလွဲမရှိကြပါ။ တတိယနည်းလမ်းဖြစ်သော ကိုယ်စားပြု၍ ကောင်းမှုကုသိုလ် ပြုပေးခြင်းနှင့်ပတ်သက်ပြီး ပညာရှင်များအကြား အကွဲအလွဲဖြစ်ကြသည်။

ကိုယ်စားပြု ကျင့်သုံးဆောင်ရွက်ပေးခြင်းနှင့်ပတ်သက်၍ စာရေးသူ၏ခံယူချက်မှာမူကား အကြင်အိဗာဒသ်များအား ကုရ်အာန်နှင့် မှန်ကန်ခိုင်လုံသော ဟဒီးစ်တော်များ၌ ကိုယ်စားပြု ဆောင်ရွက်ပေးခွင့်ရှိသည်ဟု လာရှိထားပါက ယင်းအိဗာဒသ် များကိုသာ ကွယ်လွန်သူများအပေါ် ကိုယ်စားပြုဆောင်ရွက်ပေး

ခွင့်ရှိမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော်အိဗာဒသ် များ၏ မူလဘူတဥပဒေသည်ကား ကုရ်အာန်နှင့် စွန္နဟ်အပေါ်၌သာ အခြေခံထားသည်ဖြစ်၍ မည်သည့်လူသားတစ်ဦးတစ်ယောက် ၏ ယူဆသုံးသပ်ချက်များကမှ ယင်းကဏ္ဍတွင် အထောက်အ ထားအဖြစ်ရယူ၍ မရပါ။ ထိုအတူ စဝါးဗ်ကုသိုလ်ပေးခြင်းနှင့်အ ဇာဗ်အပြစ်ပေးခြင်းတို့သည်ကား အကွယ်ကိစ္စရပ်များဖြစ်၍ ဝဟီမပါဘဲ မည်သူမျှ ယင်းကိစ္စရပ်များကို မသိနိုင်ပေ။

ထိုကြောင့် စဝါးဗ်ပို့သသည့် အခန်းကဏ္ဍတွင်လည်း ဝဟီ ဖြစ်သည့် ကုရ်အာန်ကျမ်းတော်မြတ်နှင့် မှန်ကန်ခိုင်လုံသော ဟဒီးစ်တော်များမှသာ အထောက်အထားရယူ၍ စဝါးဗ်ပို့သရ မည်ဖြစ်သည်။ ကိုယ်စားပြုဆောင်ရွက်ပေးခြင်းနှင့်ပတ်သက်၍ လာရှိသော မှန်ကန်ခိုင်လုံသည့်ဟဒီးစ်တော်များကို ခြုံငုံ၍ လေ့ လာကြည့်မည့်ဆိုပါက ဟဂ်ျ- အွမ်ရဟ်ပြုခြင်းနှင့်ရိုဇဟ် စောင့် ထိန်းပေးခြင်းတို့ကိုသာ ခွင့်ပြုထားပြီး ကျန်ကိစ္စများဖြစ်သည့် သေသူအတွက် ကုရ်အာန်ဖတ်ပေးခြင်း၊ စွလားသ်ဝတ်ပြုပေး ခြင်း အစရှိသည့်အချက်များအတွက် အထောက်အထားမရှိ သည်ကို တွေ့ရမည်ဖြစ်သည်။ ထို့အတူ ကွယ်လွန်သူအတွက် စွလားသ်များကို ဖိဒ်ယဟ်လျော်ကြေးများ တွက်ချက်၍ ပေး

ကမ်းခြင်းသည်လည်း အခြေအမြစ်မရှိသော လုပ်ရပ်ပင် ဖြစ်နေပါသည်။ အထက်တွင်တင်ပြခဲ့သည့်အတိုင်း စဝါးဗ်ကုသိုလ်ရခြင်းနှင့် အပြစ်ရခြင်းတို့သည် တရားတော်အရ အလ္လာဟ်နှင့် အလ္လာ့ဟ်ရစူလ်၏ ပြဋ္ဌာန်းသတ်မှတ်ချက်အရသာလျှင် အတည်ပြု၍ရသည့်အတွက် ယင်းအခွင့်အာဏာတွင် မည်သည့်ပညာရှင်ကမှ ဝင်ရောက်စွက်ဖက်ခွင့်၊ ရွေးချယ်ခွင့် တစ်စုံတစ်ရာ မရှိပေ။ သို့ဖြစ်ပေရာ မွတ်စ်လင်မ်များသည် မိမိတို့၏ ကောင်းမှုကုသိုလ်များအား ကွယ်လွန်သူများအပေါ် ပို့သလိုပါက အလ္လာဟ်နှင့် ရစူလ်က ခွင့်ပြုထားသည့်နည်းစနစ်အတိုင်းသာ ပို့သရမည်ဖြစ်သည်။ သို့ပါ၍ စာရေးသူသည် ဤစာတမ်းငယ်တွင် ကုရ်အာန်နှင့် မှန်ကန်ခိုင်လုံသော ဟဒီးစ်တော်လာ စဝါးဗ်ပို့သနည်းများကိုသာ ရေးသားတင်ပြထားသည်ဖြစ်၍ စာတမ်းအမည်အား “ ကွယ်လွန်သူများထံ ကုရ်အာန်၊ စွန္နဟ်နည်းနှင့်အညီ စဝါးဗ်ပို့သနည်းများ”ဟူ၍ အမည်ပေးထား ခြင်းဖြစ်ပါကြောင်း-

**وأسأل الله تعالى أن ينفع به ؛ ويجعله خالصا لوجهه الكريم ويضاعف أجر من قرأه وأعان على طبعه ونشره.**

**الشيخ شاهد نور الإسلام**

# ရှိရ်ကျူးလွန်သော မိဘနှစ်ပါးနှင့် ဆွေးမျိုးသားချင်းများအတွက် အကျိုးကုသိုလ်ပို့သခြင်း

လူတစ်ဦးတစ်ယောက် ကွယ်လွန်သေဆုံးသွားပြီး နောက်တွင် အကျိုးကုသိုလ်ရရှိနေဦးမည့် ကိစ္စရပ်များကို မပြောမီအလျင် အချက်တစ်ချက်ကို သိထားရန်မှာ အလွန်အရေးကြီးသည်။ ယင်းမှာ ကွယ်လွန်သေဆုံးပြီးနောက်လည်း အကျိုးကုသိုလ်ရရှိခံစားနိုင်ရန်မှာ ထိုသူသည် မုအ်မင်န်ဖြစ်ရမည်။ သက်တမ်းတစ်လျှောက်လုံးတွင် ရှိရ်က်အမှုကို မကျူးလွန်ဖူးသူ သို့မဟုတ် ကျူးလွန်ဖူးခဲ့လျှင်လည်း မကွယ်လွန်မီ သောင်ဗဟ်အများဝန်ချတောင်းပန်ခဲ့သူ ဖြစ်ရမည်။ အကယ်၍ တစ်ဦးတစ်ယောက်သည် ရှိရ်က်အမှုကို ကျူးလွန်ခဲ့ပြီး သောင်ဗဟ်အများဝန်ချတောင်းပန်မှုမပြုခဲ့ပါမူ သူကိုယ်တိုင် ကျင့်မူခဲ့သောကောင်းမှုကုသိုလ်များသည် သူ့အား အကျိုးတစ်စုံတစ်ရာ ပြုလိမ့်မည် မဟုတ်သကဲ့သို့ အခြားသူများ ပြုလုပ်ပေးသော ကောင်းမှုများသည်လည်း သူ့ကို အကျိုးပေးနိုင်မည် မဟုတ်ပေ။ အခြားသူများ၏ ကောင်းမှုသည် သူ့အား အကျိုးပေးဖို့ဝေးစွ၊ မဂ်ဖိရသ်အတွက် ဒုအာတောင်းခံပေးလျှင်ပင် ဘာအကျိုးမျှ ရှိမည်

မဟုတ်။ ကုရ်အာန်ကျမ်းမြတ်နှင့် ဟဒီးဆ်အမြောက်အမြားက ယင်းအချက်ကို ညွှန်ပြနေပေသည်။ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် ﷺ အား ဤသို့ မိန့်ကြားတော်မူသည်။

اِسْتَغْفِرْ لَهُمْ اَوْ لَا تَسْتَغْفِرْ لَهُمْ ؕ اِنْ تَسْتَغْفِرْ لَهُمْ سَبْعِيْنَ مَرَّةً فَلَنْ يَّغْفِرَ اللّٰهُ لَهُمْ ؕ ذٰلِكَ بِاَنَّهُمْ كَفَرُوْا بِاللّٰهِ وَرَسُوْلِهٖ ؕ وَاللّٰهُ لَا يَهْدِى الْقَوْمَ الْفٰسِقِيْنَ ﴿٨٠﴾

"အသင်သည် သူတို့အတွက် လွတ်ငြိမ်းချမ်းသာခွင့် တောင်းခံသည်ပင်ဖြစ်စေ၊ သို့မဟုတ် လွတ်ငြိမ်းချမ်းသာခွင့် မတောင်းခံသည်ပင်ဖြစ်စေ၊ (အကြောင်းမထူးပေ။)အကယ်၍ အသင်သည်သူတို့အတွက် အကြိမ်ခုနစ်ဆယ် လွတ်ငြိမ်းချမ်း သာခွင့် တောင်းခံမည်ဆိုလျှင်လည်း အလ္လာဟ်အရှင်မြတ် သည် သူတို့အား လုံးဝ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူမည် မဟုတ်ပေ။ အဘယ့်ကြောင့်ဆိုသော် သူတို့သည် အလ္လာဟ်အ ရှင်မြတ်နှင့် အရှင်မြတ်၏တမန်တော်ကို သွေဖည်ငြင်းပယ်ခဲ့ ကြသည့်အတွက် ဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် အမိန့်တော် ဖီဆန်သောသူများအား လမ်းမှန်ညွှန်ကြားပြသ

တော်မမူပေ။”[၃]

မုရ်ှရိက်မိဘနစ်ပါး သို့မဟုတ် အခြားသော မုရ်ှရိက်များအတွက် လွတ်ငြိမ်းချမ်းသာခွင့်ရရန် ဆုတောင်းပေးခွင့် မရှိပေ။ ထို့အတူ အီစ္စာလေဆဝါးဗ်အတွက် ရည်စူးပြီး ကောင်းမှုကုသိုလ်တစ်ခုခု လုပ်ပေးခြင်းကိုလည်း တားမြစ်ထားသည်။ အဗူဒါဝူးဒ်ကျမ်းတွင် باب ماجاء في وصية الحربي يسلم وليه أيلزمه أن ينفذها အခန်းတွင် ဟဒီးဆ်တစ်ပုဒ်ကို တင်ပြထားသည်။ အာစ္စ် ဗင်န် ဝါအိလ်သည် မုရ်ှရိက်တစ်ဦးဖြစ်သည်။ သူက မိမိကိုယ်စား ကျေးကျွန်အယောက်(၁၀၀)ကို သူကောင်းပြုရန် သေတမ်းစာမှာခဲ့သည်။ ဖခင်ကွယ်လွန်သွားသောအခါ သားဖြစ်သူ ဟိရှားမ်က ဖခင်အတွက် ကျေးကျွန်အယောက် (၅၀) ကို သူကောင်းပြုလိုက်ပြီး သားတစ်ဦးဖြစ်သူ အမရ်ဗင်န် အားစ္စ် ﷺက ကျန်အယောက်(၅၀)ကို သူကောင်းပြုမည်ဖြစ်သည်။ သို့သော် အမရ်ဗင်န် အားစ္စ်က “ကျွန်ုပ်သည် ဤကိစ္စနှင့်စပ်လျဉ်းပြီး ကိုယ်တော်မြတ် ﷺကို မေးမြန်းပြီးမှသာ ဆောင်ရွက်မည်ဖြစ်သည်”ဟုဆိုကာ တမန်တော်မြတ် ﷺထံ မေးမြန်းလျှောက်ထား ခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူခဲ့သည်။

၃ – ကုရ်အာန် ၉း ၈၀။

إِنَّهُ لَوْ كَانَ مُسْلِمًا فَأَعْتَقْتُمْ عَنْهُ أَوْ تَصَدَّقْتُمْ عَنْهُ أَوْ حَجَجْتُمْ عَنْهُ بَلَغَهُ ذَلِكَ

"အကယ်၍ အသင့်ဖခင်သည် မွတ်စ်လင်မ်တစ်ဦး သာ ဖြစ်ခဲ့မည်ဆိုလျှင် သူ့အတွက် အသင်တို့၏ ကျွန်သူကောင်း ပြုခြင်း၊ စွဒကဟ်အလှူဒါနပြုခြင်း၊ ဟဂျ်ပြုခြင်းတို့၏အကျိုး သည် သူ့ထံ မုချရောက်မည်သာ။"[၄]

အထက်ပါ အထောက်အထားများအရ လွတ်ငြိမ်းချမ်း သာခွင့်ရဖို့ ဆုတောင်းပေးခြင်း သို့မဟုတ် အီစွာလေစဝါးဗ်နီ ယသ်ဖြင့် ကောင်းမှုကုသိုလ်ပြုခြင်းတို့သည် ကာဖိရ်၊ သို့မဟုတ် မုရှ်ရိက်အတွက် ပြုပေး၍ မရကြောင်း ထင်ရှားသွားပေသည်။ ထို့အတူ လူတစ်ဦးသည် မိမိကိုယ်ကို မွတ်စ်လင်မ်ဟု ပြောဆို သော်လည်း နောက်ဆုံးအချိန်တွင် မုရှ်ရိက်အဖြစ်နှင့် သေဆုံး သွားပါက ထို သူ့အတွက်လည်း အီစွာလေ့ဆဝါးဗ် ပြုပေး၍မရ ပေ။

သို့သော် ငယ်ရွယ်စဉ်ကတည်းက မိဘများဆုံးပါး သွားခဲ့သည်။ မိဘများသည် မှန်ကန်သော အကီဒဟ်ယုံကြည်

၄ - အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် ၂၈၈၃။

ချက်ပေါ်တွင် ကွယ်လွန်သွားသလား၊ မုရ်ရှိရိက်အဖြစ်နှင့် ကွယ်လွန် သွားသလားဆိုသည်ကို တိတိကျကျမသိရလျှင် ထိုသူသည် အကောင်းဘက်က ထင်မြင်ယူဆပြီး မိမိ၏မိဘများအတွက် ဆဝါးဗ်ပြုပေးနိုင်သည်။

## သေသူကို အကျိုးပေးနိုင်သောကောင်းမှုများ

ဤခေါင်းစဉ်အောက်တွင် သေသူကိုယ်တိုင် အသက်ရှင်စဉ်အခါက ကျင့်မူခဲ့ပြီး သေဆုံးပြီးနောက်တွင်လည်း အကျိုးကုသိုလ် ဆက်လက်ရရှိနေဦးမည့်ကောင်းမှုများအကြောင်းကို ဦးစွာတင်ပြပါမည်။ ထို့နောက်တွင် သေသူ၏ သားသမီးများနှင့် ဆွေးမျိုးသားချင်းများက သေသူ အကျိုးကုသိုလ်ရဖို့အတွက် ပြုလုပ်ပေးသောကောင်းမှုများအကြောင်း တင်ပြပါမည်။

## စွဒကဟ်ဂျာရီယဟ်နှင့် အကျိုးပြုသောပညာ

လူတစ်ဦးသည် သက်ရှိထင်ရှားရှိနေစဉ်ကာလ၌ ကောင်းမှုတစ်ခုပြုလုပ်မည်။ သူသေသွားပြီးနောက်တွင်လည်း လူတို့သည် ယင်းကောင်းမှုမှ ဆက်လက်အကျိုးခံစားနေကြရလျှင်

ထိုသို့သော ကောင်းမှုကို စွဒကဟ်ဂျာရီယဟ်ဟု ခေါ်သည်။ လူတို့ အကျိုးခံစားနေသမျှကာလပတ်လုံး သေသူသည် အကျိုးကုလိုလ်ရနေမည်ဟု ဆိုလိုသည်။

ထို့အတူ လူတစ်ဦးသည် အကျိုးပြုသောပညာကို သင်ယူဆည်းပူးမည်။ ပြီးနောက် လူတို့အား ပြန်လည် သင်ကြားပို့ချပေးခဲ့သည်ရှိသော် ထိုပညာရပ်ပေါ် လူတို့ ကျင့်သုံးနေသမျှကာလပတ်လုံး သင်ပေးသူသည် အကျိုးကုသိုလ်ရရှိနေမည်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ် မိန့်ကြားတော်မူသည်။

إِنَّا نَحْنُ نُحْيِ الْمَوْتَىٰ وَنَكْتُبُ مَا قَدَّمُوا وَآثَارَهُمْ ۚ وَكُلَّ شَيْءٍ أَحْصَيْنَاهُ فِي إِمَامٍ مُّبِينٍ ﴿١٢﴾

"အမှန်စင်စစ် ငါ အရှင်မြတ်သည်ပင် သေသူများကို ရှင်စေတော်မူမည်။ ထို့ပြင် ငါအရှင်မြတ်သည် သူတို့ ကြိုတင်ပို့ခဲ့ကြသည်များနှင့် သူတို့ နောက်ချန်ထားခဲ့ကြသည်များကို ရေးသားထားတော်မူသည်။ ထို့ပြင် ငါအရှင်မြတ်သည် အရာအားလုံးကို ထင်ရှားသော မှတ်တမ်းစာအုပ်တွင် ရေးမှတ်ထားပြီးဖြစ်သည်။"[၅] ဟာဒီးဆ်တော်တွင် လာရှိသည်။

---

၅ - ကုရ်အာန် ၃၆း၁၂။

إِذَا مَاتَ الإِنْسَانُ انْقَطَعَ عَنْهُ عَمَلُهُ إِلَّا مِنْ ثَلَاثَةٍ, مِنْ صَدَقَةٍ جَارِيَةٍ أَوْ عِلْمٍ يُنْتَفَعُ بِهِ أَوْ وَلَدٍ صالِحٍ يَدْعُوْ لَهُ

တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ လူသား ကွယ်လွန်သေဆုံးသွားသောအခါ သုံးခုသောကောင်းမှုများမှ အပ ကျန်ကောင်းမှုများအားလုံးသည် ပြတ်တောက်သွားပေ သည်။ ယင်းကောင်းမှုသုံးခုမှာ (၁) စွဒကဟ်ဂျာရီယဟ်။ (၂) လူတို့အား အကျိုးပြုသောပညာ။ (၃) ဆုမွန်ကောင်း တောင်း ပေးမည့်သားသမီးအလိမ္မာတို့ ဖြစ်သည်။[၆]

အိဗ်နုမာဂျဟ်ကျမ်း باب ثواب معلم الناس الخير အခန်းအောက်တွင် ဟဒီးဆ်တစ်ပုဒ်တင်ပြထားသည်။

مَنْ عَلَّمَ عِلْمًا فَلَهُ أَجْرُ مَنْ عَمِلَ بِهِ لَا يَنْقُصُ مِنْ أَجْرِ الْعَامِلِ

“မည်သူမဆို တစ်ဦးတစ်ယောက်အား အသိပညာတစ်ခု သင်ကြားပို့ချပေးခဲ့ပါမူ ထိုပညာကို လက်တွေ့ကျင့်ဆောင်သူ

၆ - မွတ်စ်လင်မ်ကျမ်း - ၁၆၃၁။

၏ အကျိုးကုသိုလ်ကို ရရှိပေလိမ့်မည်။ လက်တွေ့ ကျင့်ဆောင်သူ၏ အကျိုးကုသိုလ်တွင်လည်း လျော့နည်းမည်မဟုတ်။"[၇]
အခြားဟဒီးစ်တော်တစ်ပုဒ်တွင် ဤသို့ လာရှိသည်။

إِنَّ مِمَّا يَلْحَقُ الْمُؤْمِنَ مِنْ عَمَلِهِ وَحَسَنَاتِهِ بَعْدَ مَوْتِهِ عِلْمًا عَلَّمَهُ وَنَشَرَهُ...... أَوْصَدَقَةً أَخْرَجَهَا مِنْ مَالِهِ فِيْ صِحَّتِهِ وَحَيَاتِهِ يَلْحَقُهُ مِنْ بَعْدِ مَوْتِهِ

"မုအ်မင်န်တစ်ဦး ကွယ်လွန်သေဆုံးသွားပြီးနောက်တွင်လည်း ရရှိနေမည့်ကောင်းမှုကုသိုလ်များအနက်တစ်ခုမှာ အသိပညာကို သင်ကြားပို့ချဖြန့်ချိခြင်း၊ သက်ရှိထင်ရှားရှိနေစဉ်၊ ကျန်းမာနေစဉ်အခါက လှူဒါန်းခဲ့သော အလှူဒါနတို့ ဖြစ်သည်။ ယင်းကောင်းမှုများ၏ အကျိုးကုသိုလ်ကို သေပြီးနောက်တွင်လည်း ရရှိနေမည်ဖြစ်သည်။ "[၈]

လူတစ်ဦးသည် အသက်ရှင်နေစဉ်က အလှူဒါနတစ်ခု ပြုခဲ့သည်။ ဥပမာ- ဗလီကျောင်း၊ စာသင်ကျောင်း ဆောက်လုပ်လှူဒါန်းခြင်း၊ အများသူငါ အဆင်ပြေစေဖို့ အတွက် ရေလှူဒါန်းခြင်း စသည်ဖြင့်။ ထိုကောင်းမှုများ၏ အကျိုးကုသိုလ်ကို

၇ - အိဗ်နမာဂျဟ်ကျမ်း - ၂၄၀။
၈ - အိဗ်နမာဂျဟ်ကျမ်း - ၂၄၂။

သေဆုံးပြီးနောက်လည်း ရရှိနေမည်ဖြစ်သည်။ ထိုနည်းတူ လူတို့အား သာသနာ့အသိပညာသင်ပေးမည်၊ ပညာကို ဖြန့်ချိမည်ဆိုလျှင် သေပြီးနောက်လည်း အကျိုးကုသိုလ် ရရှိနေမည်။

## ကောင်းမြတ်သောသားသမီးများ၏ ကောင်းမှုကုသိုလ်

လူတစ်ဦးသည် မိမိ၏ သားသမီးများကို ကောင်းမွန်စွာ ပဲ့ပြင်ဆုံးမခဲ့သည်ဆိုလျှင် ထိုသားသမီးများပြုလုပ်သည့် ကောင်းမှုများ၏ အကျိုးကုသိုလ်ကို မိဘများပါ ပြည့်ပြည့်ဝဝ ရရှိပေသည်။

إِذَا مَاتَ الإِنْسَانُ اِنْقَطَعَ عَنْهُ عَمَلُهُ إِلَّا مِنْ ثَلَاثَةٍ, مِنْ صَدَقَةٍ جَارِيَةٍ أَوْ عِلْمٍ يُنْتَفَعُ بِهِ أَوْ وَلَدٍ صَالِحٍ يَدْعُوْ لَهُ

တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ လူသားကွယ်လွန်သေဆုံးသွားသောအခါ သုံးခုသောကောင်းမှုများမှအပ ကျန်ကောင်းမှုများအားလုံးသည် ပြတ်တောက်သွားပေသည်။ ယင်းကောင်းမှုသုံးခုမှာ (၁) စွဒကဟ်ဂျာရီယဟ်။ (၂) လူတို့အား အကျိုးပြုသောပညာ။ (၃) ဆုမွန်ကောင်း တောင်း

ပေးမည့်သားသမီးအလိမ္မာတို့ ဖြစ်သည်။[၉]

အလ္လာမဟ် အလ်ဗာနီ ﷺ က မိန့်ဆိုသည်။ ကောင်းမြတ်သောသားသမီးများသည် ကောင်းမှုတစ်ခုကျင့်ဆောင်တိုင်း ထိုကောင်းမှု၏ အကျိုးကုသိုလ်များကို သားသမီးများလည်း ရရှိကြသည်။ မိဘများလည်း အကျိုးကုသိုလ်ရရှိကြသည်။ သားသမီးများ၏ အကျိုးကုသိုလ်တွင် အနည်းငယ်မျှလည်း လျော့သွားမည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် သားကောင်းသမီးကောင်းဖြစ်လာရခြင်းသည် မိဘများ ကြိုးစားအားထုတ်မှု၏ အသီးအပွင့်ပင် မဟုတ်ပါလော။ အလ္လာဟ်အရှင်မြတ် မိန့်ကြားတော်မူသည်။

وَاَنۡ لَّيۡسَ لِلۡاِنۡسَانِ اِلَّا مَا سَعٰى ﴿٣٩﴾

"လူသားအတွက် သူကြိုးစားအားထုတ်ထားသောအရာမှလွဲ၍ အခြားမရှိပေ။"[၁၀]

တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။

إِنَّ مِنْ أَطْيَبِ مَا أَكَلَ الرَّجُلُ مِنْ كَسْبِهِ وَوَلَدُهُ مِنْ كَسْبِهِ

---

၉ – မွတ်စ်လင်မ်ကျမ်း – ၁၆၃၁။

၁၀ – ကုရ်အာန် ၅၃း ၃၉

"လူသားတစ်ဦး စားသုံးသောအရာများတွင် အကောင်းဆုံးမှာ သူလုပ်ကိုင်ရှာဖွေထားသောအရာ ဖြစ်သည်။ သူ၏ သားသမီး သည်လည်း သူလုပ်ကိုင်ရှာဖွေထားသောအရာ ဖြစ်သည်။"[၁၁]

အလ္လာမဟ်အလ်ဗာနီ ﷺ က အထက်ပါအာယသ်တော်နှင့် ဟဒီးဆ်တော်များမှ အထောက်အထားပေးသည်။ လူသားသည် သူရှာဖွေဆည်းပူးထားသောအရာကိုသာ ရမည်ဟု အလ္လာဟ် အရှင်မြတ်က မိန့်ထားသည်။ သားသမီးများသည်လည်း သူရှာ ဖွေဆည်းပူးထားသောအရာဟု မိန့်ဆိုထားသောကြောင့် သား သမီးများ ကျင့်ဆောင်သောကောင်းမှုများ၏ အကျိုးကုသိုလ်ကို မိဘများပါ ရရှိရခြင်း ဖြစ်သည်။

## နည်းလမ်းကောင်းများ တီထွင်ပြသခြင်း

အကယ်၍လူတစ်ဦးသည် သက်ရှိထင်ရှားရှိနေစဉ်က ကောင်းမြတ်သောလမ်းစဉ်တစ်ခု၊ နည်းလမ်းတစ်ခုကို တီထွင်ခဲ့ သည်ရှိသော် ထိုလမ်းစဉ်၊ ထိုနည်းလမ်းအတိုင်း လူတို့ ကျင့်မှု နေသမျှကာလပတ်လုံး ထိုအကျိုးကုသိုလ်ကို တီထွင်သူရရှိနေ မည်ဖြစ်သည်။ တမန်တော်မြတ် ﷺ မိန့်ကြား တော်မူ သည်။

---

၁၁ – အဗူဒါဝူးဒ်ကျမ်း – ၃၅၂၈။

مَنْ سَنَّ فِيْ الإِسْلَامِ سُنَّةً حَسَنَةً فَلَهُ أَجْرُهَا وَأَجْرُ مَنْ عَمِلَ بِهَا بَعْدَهُ مِنْ غَيْرِ أَنْ يَنْقُصَ مِنْ أُجُورِهِمْ شَيْءٌ

"မည်သူမဆို အစ္စလာမ်သာသနာတွင် ကောင်းမြတ်သောနည်းလမ်းတစ်ခုကို တီထွင်ပြသခဲ့ပါက ထိုသို့ပြသခြင်း၏ အကျိုးကုသိုလ်ကိုလည်းရမည်။ သူ့နောက်တွင် ထိုနည်းလမ်း အတိုင်း ကျင့်သုံးသူ၏ အကျိုးကုသိုလ်ကိုလည်း ရမည်။ သူတို့ တစ်ယောက်တိုင်း၏အကျိုးကုသိုလ်တွင်လျော့နည်းမည်လည်း မဟုတ်ပေ။"[၁၂]

အခြားဟဒီးစ်တော်တစ်ပုဒ်တွင် လာရှိသည်။

مَنْ سَنَّ سُنَّةً حَسَنَةً فَلَهُ أَجْرُهَا مَا عُمِلَ بِهَا فِيْ حَيَاتِهِ وَبَعْدَ مَمَاتِهِ حَتَّى تُتْرَكَ

"မည်သူမဆို ကောင်းမြတ်သောလမ်းစဉ်တစ်ခုကို တီထွင်ပြသခဲ့ပါက သူအသက်ရှင်နေစဉ်မှာရော၊ သူကွယ်လွန်ပြီးနောက်တွင်ပါ ထိုလမ်းစဉ်ကို လူတို့ ကျင့်သုံးနေသမျှ အကျိုးကုသိုလ်ရနေမည်ဖြစ်သည်။ ထိုလမ်းစဉ်ကို လူတို့ စွန့်လွှတ်

---

၁၂-မွတ်စ်လင်မ်ကျမ်း၊ ၁၀၁၇။

လိုက်ကြသည့်အချိန်ထိ ဖြစ်သည်။”[၁၃]

သို့သော် ဤနေရာတွင် မှတ်သားရမည့်အချက်တစ်ချက် ရှိသည်။ ယင်းမှာ လူသား၏ ဦးနှောက်အသိဉာဏ်ဖြင့် ကောင်းသည်ဟုထင်မှတ်သော လမ်းစဉ်တိုင်းသည် ကောင်းမြတ်သည်မဟုတ်ပေ။ ကောင်းမြတ်သောနည်းလမ်း တီထွင် ပြသခြင်းဟူသည် ရှရီအသ်တရားတော်တွင် မူလဘူတရှိနှင့်ပြီးသားအရာကို နည်းလမ်းသစ်ဖြင့် တင်ပြခြင်းမျိုးဖြစ်ရမည်။ သာသနာတွင် မူရင်းမရှိသောလမ်းစဉ်သည် အပေါ်ယံအားဖြင့် အဘယ်မျှ ကောင်းမြတ်နေပါစေ လက်ခံခြင်းခံရမည်မဟုတ်။ သို့သာမက ဗိဒ်အသ်တရားသစ်တီထွင်ခြင်းသာ ဖြစ်သွားပေမည်။

## စာအုပ်စာပေများ ရေးသားဖြန့်ချိခြင်း

လူသားတစ်ဦး အသက်ရှင်နေစဉ်အခါက သာသနာရေးရာ စာအုပ်စာပေများ ရေးသားခြင်း၊ ဖြန့်ချိခြင်းအားဖြင့် သာသနာ့ပညာ ပြန့်ပွားအောင်လုပ်ခြင်းသည်လည်း စွဒကဟ်ဂျာရီယဟ်တွင် အကျုံးဝင်သည်။ ရှိုင်ခ် အသွာအုလ္လာဟ်စာဂျိဒ်က

---

၁၃ – အသ်သန်ရ်ဂီးဗ်၊ ဝလ်သန်ရ်ဟီးဗ်ကျမ်း၊ ၆၅။

အိဗ်နမာဂျဟ်ကျမ်း بَابُ ثَوَابِ مُعَلِّمِ النَّاسِ الخَيرَ အခန်း အောက်တွင်တင်ပြထားသောဟဒီးဆ်တော် وَعِلْمٌ يعمل بِهِ مِنْ بَعْدِهِ ၏ ရှင်းလင်းချက်တွင် အကျိုးကျေးဇူးများကို ရေး သားဖော်ပြထားသည်။ ယင်းမှာ- တစ်ဦးတစ်ယောက်ကို ပညာ သင်ကြားပေးခြင်း၊ သို့မဟုတ် ပညာရေးဆိုင်ရာ အကျိုးတစ်ခုခု ပြုလိုက်ခြင်းတို့သည် သေပြီးနောက်လည်း ကုသိုလ်ရနေမည့် ကောင်းမှုများ ဖြစ်သည်။ ဟဒီးဆ်ပညာရှင်ကြီးများ ရေးသားပြု စုခဲ့ကြသည့် စာပေကျမ်းဂန်များသည် ဤအတိုင်းပင် ဖြစ်သည်။ ထိုကျမ်းဂန်များမှ လူများ အကျိုးခံစားနေကြသမျှကာလပတ်လုံး သူတို့သည် ကုသိုလ်ရနေကြမည် ဖြစ်သည်။ အခြားဆင့်ပြန် ချက်တစ်ရပ်တွင် ဤသို့လာရှိသည်။

إِنَّ مِمَّا يَلْحَقُ الْمُؤْمِنَ مِنْ عَمَلِهِ وَحَسَنَاتِهِ بَعْدَ مَوْتِهِ عِلْمًا عَلَّمَهُ وَنَشَرَهُ...... وَمُصْحَفًا وَرَّثَهُ.

"မုအ်မင်န်တစ်ဦး ကွယ်လွန်သေဆုံးသွားပြီးနောက် တွင်လည်း ရရှိနေမည့်ကောင်းမှုကုသိုလ်များအနက်တစ်ခုမှာ အသိပညာကို သင်ကြားပို့ချဖြန့်ချီခြင်း...နှင့် ကုရ်အာန်ကျမ်း မြတ် အမွေထားခဲ့ခြင်းတို့ ဖြစ်သည်။ [၁၄]

၁၄ - အိဗ်နမာဂျဟ်ကျမ်း - ၂၄၂။

အထက်ပါဟဒီးဆ်တော်တွင် ပညာကို ဖြန့်ချိခြင်းဟုသာ ဖော်ပြထားသည်။ သင်ပေးသင်ယူစနစ်ဖြင့် ဖြန့်ချိသည်ဖြစ်စေ၊ စာအုပ်စာပေများဖြင့် ဖြန့်ချိသည်ဖြစ်စေ၊ စာအုပ် စာပေများ ဝယ်ယူပြီး အလ္လာဟ်လမ်းတွင် ဓမ္မဒါနပြုသည်ဖြစ်စေ ပုံစံအားလုံးသည် ပညာဖြန့်ချိခြင်းတွင် အကျုံးဝင်သည်။ ထို့အတူ ကုရ်အာန်ကျမ်းစာအုပ် အမွေထားခဲ့မည်ဆိုလျှင်လည်း ယင်းကုရ်အာန်ကို ဖတ်ရွတ်နေကြသမျှကာလပတ်လုံး ထားခဲ့သူသည် အကျိုးကုသိုလ် ရရှိနေမည်ဖြစ်သည်။

## အလ္လာဟ်အရှင့်လမ်းတော်တွင် နယ်စပ်၌ ကင်းစောင့်ခြင်း

အလ္လာဟ်အရှင်မြတ်လမ်းတော်တွင် အစ္စလာမ့်နိုင်ငံ နယ်စပ်၌ ကင်းစောင့်ခြင်းသည်လည်း သေဆုံးပြီးနောက်တွင်ပါ အကျိုးကုသိုလ်ရနေမည့် ကောင်းမှုဖြစ်သည်။ မွတ်စ်လင်မ် ကျမ်းတွင် ဤသည်နှင့်စပ်လျဉ်း၍ ဟဒီးဆ်တော် တစ်ပုဒ်လာ ရှိသည်။

رِبَاطُ يَوْمٍ وَلَيْلَةٍ خَيْرٌ مِن صِيَامِ شَهْرٍ وَقِيَامِهِ, وَإِنْ مَاتَ

جَرَى عَلَيْهِ عَمَلُهُ الَّذِيْ كَانَ يَعْمَلُهُ, وَأَجْرِيَ عَلَيْهِ رِزْقُهُ, وَأَمِنَ الْفَتَّانَ

"အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် တစ်နေ့နှင့် တစ်ည နယ်စပ်ကင်းစောင့်ခြင်းသည် တစ်လတာ ဥပုသ်သီလ စောင့်ထိန်းခြင်းနှင့် တစ်လတာ ညဥ့်အချိန် အိဗာဒသ်လုပ်ခြင်းထက် ပိုကောင်းသည်။ အကယ်၍ ထိုသူ ကွယ်လွန်သွားပါက သူလုပ်မြဲလုပ်နေသည့်အတိုင်း အကျိုးကုသိုလ်ရရှိနေမည်။ လုပ်အားခလည်း ဆက်လက်ရရှိမည်။ ဖိသ်နဟ်လုပ်မည့်သူ၏ ရန်မှ ထိန်းသိမ်းခြင်းခံရမည်။"[၁၅]

ရှိုင်ခ်စွဖီယုရ်ရဟ်မာန် မုဘာရက်ပူရီ رحمه الله က ဤဟဒီးဆ်တော်၏ ရှင်းလင်းချက်တွင် ရေးသားသည်။ "အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် နယ်စပ်ကင်းစောင့်ခြင်းသည်လည်း စွဒကဟ်ဂျာရီယဟ်တစ်မျိုး ဖြစ်သည်။ ထို့ကြောင့် ကွယ်လွန်သေဆုံးသွားပြီးနောက်လည်း အကျိုးကုသိုလ်ရနေဦး မည်ဖြစ်သည်။[၁၆]

---

၁၅ – မွတ်စ်လင်မ်ကျမ်း၊ ၁၉၁၃။

၁၆ – မိန်နသုလ်မုန်အင်မ်တွဲ – ၃၊ စာ ၂၉၄။

## ဗလီဝတ်ကျောင်းတော်နှင့် အခြားသောသာသနိက အဆောက်အဦများ ဆောက်လုပ်ခြင်း

အိမာမ်အိဗ်နုမာဂျဟ် رحمه الله က အိဗ်နုမာဂျဟ်ကျမ်းတွင် بَابُ ثَوَابِ مُعَلِّمِ النَّاسِ الْخَيْرَ အခန်း၌ ဟဒီးဆ်တော်တစ်ပုဒ်ကို တင်ပြထားသည်။ ယင်းဟဒီးဆ်တော်သည် ယခုဆွေးနွေးနေသည့်အကြောင်းအရာအတွက် အလွန်မှ ပြည့်စုံလှသည်။ တမန်တော် မြတ် ﷺ မိန့်ကြားတော်မူခဲ့သည်။

إِنَّ مِمَّا يَلْحَقُ الْمُؤْمِنَ مِنْ عَمَلِهِ وَحَسَنَاتِهِ بَعْدَ مَوْتِهِ عِلْمًا عَلَّمَهُ وَنَشَرَهُ, وَوَلَدًا صَالِحًا تَرَكَهُ, وَمُصْحَفًا وَرَّثَهُ, أَوْ مَسْجِدًا بَنَاهُ أَوْ بَيْتًا لِابْنِ السَّبِيلِ بَنَاهُ, أَوْ نَهْرًا أَجْرَاهُ أَوْ أَوصَدَقَةً أَخْرَجَهَا مِنْ مَالِهِ فِي صِحَّتِهِ وَحَيَاتِهِ يَلْحَقُهُ مِنْ بَعْدِ مَوْتِهِ.

“မုအ်မင်န်တစ်ဦး ကွယ်လွန်သေဆုံးသွားပြီးနောက်တွင်လည်း ရရှိနေမည့်ကောင်းမှုကုသိုလ်များမှာ - အသိပညာကို သင်ကြားပို့ချဖြန့်ချိခြင်း၊ ကောင်းမြတ်သောသားသမီးများထားခဲ့ခြင်း၊ ကျမ်းမြတ်ကုရ်အာန် အမွေထားခဲ့ခြင်း၊ ဗလီဝတ်ကျောင်းတော်ဆောက်လုပ်ခြင်း၊ သို့မဟုတ် ခရီးသွားများအ

တွက် နားနေဆောင် ဆောက်လုပ်ခြင်း၊ ချောင်းမြောင်း ဖောက်လုပ်ခြင်း၊ သက်ရှိထင်ရှားရှိနေစဉ်၊ ကျန်းမာနေစဉ်အခါက လှူဒါန်းခဲ့သော အလှူဒါနတို့ ဖြစ်သည်။ ယင်းကောင်းမှုများ၏ အကျိုးကုသိုလ်ကို သေပြီးနောက်တွင်လည်း ရရှိနေမည်ဖြစ်သည်။ ”[၁၇]

ဤတွင် လူတစ်ဦး သက်ရှိထင်ရှားရှိစဉ်အခါက ကျင့်မှုဆောင်ရွက်ခဲ့ပြီး ကွယ်လွန်ပြီးနောက်တွင်လည်း အကျိုးကုသိုလ်ရရှိနေဦးမည့် ကောင်းမှုများအကြောင်း တင်ပြပြီးစီးပါပြီ။ ရှေ့တွင် သေသူ၏ ဆွေးမျိုးသားချင်းများက ပြုပေးသောကြောင့် ကွယ်လွန်သူရရှိမည်ဖြစ်သော ကောင်းမှုများအကြောင်းကို တင်ပြပါမည်။

## အကြွေးဆပ်ပေးခြင်း

ကွယ်လွန်သူသည် ကြွေးမြီများတင်ရှိနေခဲ့ပါက ယင်းကြွေးမြီများ ဆပ်ပေးခြင်းသည် ကွယ်လွန်သူအဖို့ အလွန် အကျိုးရှိပါသည်။ အကြွေးဆပ်ပေးသူသည် ဆွေးမျိုးဖြစ်စေ၊ သို့မဟုတ် အခြားသူတစ်ဦးတစ်ယောက်ဖြစ်စေ မည်သူမဆို ဆပ်ပေးနိုင်

---

၁၇ – အိဗ်နမာဂျဟ်ကျမ်း – ၂၄၂။

သည်။ ကြွေးမြီဆပ်ခြင်းသည် အလွန်အရေးကြီးသော ကိစ္စရပ်တစ်ခု ဖြစ်သည်။ အကြွေးကြောင့် ကွယ်လွန်သူသည် အခက်အခဲများစွာ ကြုံတွေ့ရပေသည်။

အကြွေးဆပ်ခြင်းသည် အလွန်အရေးကြီးသော ကိစ္စတစ်ခု ဖြစ်သောကြောင့် လူတိုင်းသည် မကွယ်လွန်မီအလျင် အကြွေးကင်းအောင် ကြိုးစားအားထုတ်သင့်ပေသည်။ လူတို့ထံမှ အကြွေးယူပြီးနောက် ယင်းအကြွေးကို ပြန်ဆပ်ဖို့ မကြိုးစားသူနှင့်ပတ်သက်ပြီး ဟဒီးဆ်တော်များတွင် ခြိမ်းခြောက်မှုများ အမြောက်အမြားလာရှိသည်။

မည်သို့ပင်ဆိုစေကာမူ လူတစ်ဦးသည် အသက်ရှင်နေစဉ်အတွင်း အကြောင်းအမျိုးမျိုးကြောင့် အကြွေးမဆပ်နိုင်ခဲ့ပါက သူ့ကိုယ်စားတစ်ဦးဦးက အကြွေးဆပ်ပေးလျှင် အကြွေးကျေသွားပေလိမ့်မည်။ ကွယ်လွန်သူအတွက် အပြစ်ဒဏ်မှ ပေါ့ပါးသွားစရာအကြောင်းခံ ဖြစ်သည်။ စအဒ်ဗင်န် အသွဝလ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်၏ အစ်ကိုသည် ကွယ်လွန်သွားသောအခါ အမွေအဖြစ် ငွေဒင်္ဂါးနှင့် သားသမီးများ ချန်ရစ်ခဲ့သည်။ ကျွန်တော်သည် ထိုငွေဒင်္ဂါးများကို သားသမီးများအတွက် အမွေခွဲပေးလိုက်မည်ဟု ရည်ရွယ်ခဲ့သည်။ ထိုရည်ရွယ်ချက်ကို တမန်တော်မြတ် ﷺ ထံ တင်ပြခဲ့ရာ တမန်တော်

မြတ် ﷺက မိန့်ကြားတော်မူသည်။

إِنَّ أَخَاكَ مُحْتَبَسٌ بِدَيْنِهِ فَاقْضِ عَنْهُ

"အသင့်အစ်ကိုသည် အကြွေးနှင့် ချုပ်နှောင်ခံထားရသည်။ ထို့ကြောင့် သူ့အကြွေးကို ဆပ်ပေးပါ။"

စအဒ်က ပြောပြသည်။ ကျွန်တော်သည် အကြွေးများ ဆပ်ပေးပြီးသွားသောအခါ တမန်တော်မြတ် ﷺအား အကြွေး ဆပ်ပြီးသွားကြောင်း အကြောင်းကြားခဲ့သည်။"[၁၈]

သေသူ့ကိုယ်စား အကြွေးဆပ်ပေးရန် အရေးကြီးကြောင်းနှင့် စပ်လျဉ်းပြီး အိမာမ်ဗုခါရီ رحمه الله သည် စွဟီးဟ်ဗုခါရီ ကျမ်းတွင် بَابُ مَنْ تَكَفَّلَ عَنْ مَيِّتٍ دَيْنًا فَلَيْسَ لَهُ أَنْ يَرْجِعَ ဟူသောအခန်းတွင် ဟဒီးဆ်တော်တစ်ပုဒ်ကို တင်ပြထားသည်။ စလမဟ်ဗင်န် အက်ဝအ် رضي الله عنه က ပြောပြသည်။ တမန်တော်မြတ် ﷺအား ဂျနာဇဟ်တစ်ခုအတွက် စွလာသ် ဝတ်ပြုပေးရန် လာခေါ်ခဲ့ကြသည်။ ထိုအခါ ကိုယ်တော်မြတ် ﷺက "ထိုသူ့မှာ အကြွေးဆပ်စရာများ ကျန်ခဲ့သလား"ဟု မေးမြန်းတော်မူခဲ့သည်။ စွဟာဗဟ်များက ကျန်ရှိကြောင်း လျှောက်ထားခဲ့ကြသည်။ ကိုယ်တော်မြတ် ﷺက မိန့်ကြား တော်မူသည်။

---

၁၈ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် ၂၄၃၃။

"သို့ဆိုလျှင် သူ့အတွက် အသင်တို့ပဲ စွလားသ်ဝတ်ပြုပေးလိုက်ကြကုန်"။ ထိုအခါ အဗူကသာဒဟ် ﷺက လျှောက်တင်သည်။ အို– ကိုယ်တော်မြတ်၊ သူ့အကြွေးကို ကျွန်တော် ဆပ်ပေးပါမည်။ သူ့အတွက် ဂျနာဇဟ်စွလားသ်ဝတ်ပြု ပေးတော်မူပါ။ ထိုအခါမှသာ ကိုယ်တော်မြတ် ﷺသည် ထိုကွယ်လွန်သူအတွက် ဂျနာဇဟ်စွလားသ် ဝတ်ပြုပေးတော်မူခဲ့သည်။"[၁၉]

မွတ်စ်နဒ်အဟ်မဒ်ကျမ်းတွင်လာရှိသော ဆင့်ပြန်ချက်တွင် ဤသို့ပါရှိသည်။ ကိုယ်တော်မြတ် ﷺသည် အဗူကသာဒဟ် ﷺအား ခေါ်ယူမေးမြန်းတော်မူခဲ့သည်။ အို– အဗူကသာဒဟ်၊ ဟိုအကြွေးဆပ်စရာတွေ ဘာထူးလဲ၊ ဆပ်လိုက်ပြီလား။ အဗူကသာဒဟ်က လျှောက်တင်သည်။ အို–တမန်တော်၊ ကျွန်တော်မျိုးသည် နောက်ရက်မှာပင် ချက်ချင်းသွားပေးလိုက်ပါပြီ။ ထိုအခါ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "ယခုမှ သူ၏ အရေးပြားများ အေးသွားပေပြီ။"[၂၀]

ဆိုလိုသည်မှာ အကြွေးမဆပ်ရသေးသောကြောင့် ကွယ်လွန်သူသည် အပြစ်ခံနေရသည်။ ယခု အကြွေးဆပ်လိုက်မှသာ သူသည် အေးချမ်းမှုကို ရသွားပြီဟူ၏။

---

၁၉ – ဗုခါရီကျမ်း၊ နံပါတ် – ၂၂၉၅။

၂၀ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ တွဲ –၃၊ စာ ၃၃၀။

# လွတ်ငြိမ်းချမ်းသာခွင့်ရရန် ဆုတောင်းပေးခြင်း

သေသူအတွက် လွတ်ငြိမ်းချမ်းသာခွင့်ရရန် ဒုအာဆုတောင်းပေးခြင်းသည် သေသူအား အဆင့်အတန်းမြင့်မားစေမည့်အကြောင်းခံနှင့် အပြစ်များမှာ လျော့ပေါ့မှုရရန် အကြောင်းခံဖြစ်သည်။ သို့သော် ဒုအာလက်ခံခြင်းခံရရန်အတွက် လိုအပ်သည့်စည်းကမ်းများနှင့် ကိုက်ညီမှသာ ဒုအာတောင်းခြင်းသည် သေသူကို အကျိုးပေးနိုင်မည် ဖြစ်သည်။ ကွယ်လွန်သွားသူအတွက် ဆုတောင်းပေးခြင်းနှင့် ထိုဆုတောင်းပေးမှုများမှ အကျိုးကုသိုလ်ရရှိသည့်အကြောင်း ကုရ်အာန်နှင့် ဟဒီးဆ်တော်အမြောက်အမြားက ညွှန်ပြနေပေသည်။

သေသူအတွက် ဂျနာဇဟ်စွလားသ်ဝတ်ပြုပေးခြင်းသည် ပထမဦးဆုံးပြုပေးရသော ဒုအာဖြစ်သည်။ ကွယ်လွန်သွားသူအတွက် ဂျနာဇဟ်စွလားသ်ဝတ်ပြုပေးခြင်းသည် မွတ်စ်လင်မ်များ၏ ဖရည်သွ်တာဝန်တစ်ရပ် ဖြစ်သည်။ မွတ်စ်လင်မ်အချို့က ဆောင်ရွက်ပေးလိုက်လျှင် အားလုံးကိုယ်စား တာဝန်ကျေပွန်သွားသည်။ သို့သော်လည်း ဝမ်းနည်းစရာကောင်းသည်မှာ ယနေ့ခေတ်တွင် မွတ်စ်လင်မ်တို့သည် ဂျနာဇဟ်စွလားသ်ကို

သိပ်အလေးမထားကြတော့ပေ။ တစ်မိနစ်၊ နှစ်မိနစ်လောက် အတွင်း အပြီးသတ်လိုက်ကြသည်။ သေသူ၏ ဤအခွင့်အရေး ကို အဲဟ်လေ့ဟဒီးဆ်အုပ်စုကသာ မှန်မှန်ကန်ကန် အကောင် အထည်ဖော်လျက်ရှိသည်ဟုဆိုလျှင် မှားမည်မဟုတ်ပေ။

မည်သို့ပင်ဆိုစေကာမူ ကွယ်လွန်သေဆုံးသွားသော မွတ်စ် လင်မ်တစ်ဦးအတွက် လွတ်ငြိမ်းချမ်းသာခွင့်ရဖို့ ဆုတောင်းပေး ခြင်းသည် အီမာန်ရှင်တို့၏ နိမိတ်လက္ခဏာတစ်ခု ဖြစ်ကြောင်း ကျမ်းတော်မြတ်ကုရ်အာန်တွင် ဖော်ပြထားပေသည်။ မုအ်မင်န် များ၏ ဂုဏ်ထူးဝိသေသများကို ဖော်ပြရင်း အလ္လာဟ်အရှင် မြတ်က ဤသို့ မိန့်ကြားတော်မူသည်။

وَالَّذِيْنَ جَآءُوْ مِنْۢ بَعْدِهِمْ يَقُوْلُوْنَ رَبَّنَا اغْفِرْ لَنَا وَلِاِخْوَانِنَا الَّذِيْنَ سَبَقُوْنَا بِالْاِيْمَانِ

"သူတို့သည် (ဤသို့)ပြောဆို ပန်ကြားကြသည်၊ အို- ကျွန်ုပ်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ် သည် ကျွန်ုပ်တို့ကိုသာမက အီမာန်ယုံကြည်မှုတွင် ကျွန်ုပ်တို့ ထက် အလျင်ဦးခဲ့သော ကျွန်ုပ်တို့၏ ညီနောင်များကိုလည်း ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူပါ။"[၂၁]

---

၂၁ - ကုရ်အာန် ၅၉း ၁၀။

တမန်တော်မြတ် ﷺသည် ဂရ်ကာဒ်သင်္ချိုင်းသို့ သွားရောက်ကာ ကွယ်လွန်သူများအတွက် ဆုတောင်းပေးတော်မူလေ့ရှိသည်။ ဤသည်နှင့်စပ်လျဥ်း၍ အာအိရှဟ် رضي الله عنهاက မေးမြန်းလျှောက်ထားခဲ့ရာ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "သူတို့အတွက် ဆုတောင်းပေးရန် ငါကိုယ်တော် အမိန့်ပေးခြင်းခံထားရသည်။[၂၂]

ဒုအာဆုတောင်းပေးခြင်းသည် သေသူအတွက် အကျိုးဖြစ်ထွန်းစေခြင်းနှင့်စပ်လျဥ်းပြီး တမန်တော်မြတ် ﷺက မိန့်တော်မူသည်။ "သေသူအား မြှုပ်နှံလို့ပြီးသွားသောအခါ ဒုအာတောင်းပေးကြကုန်"။

اِسْتَغْفِرُوا لأَخِيكُمْ وَاسْئَلُوا لَهُ التَّثْبِيْتَ فَإِنَّهُ الآنَ يُسْئَلُ

"သင်တို့၏ ညီနောင်အတွက် လွတ်ငြိမ်းချမ်းသာခွင့်ရဖို့နှင့် ကြံ့ကြံ့ခံရပ်တည်နိုင်အောင် ဆုတောင်းပေးကြကုန်။ အဘယ်ကြောင့်ဆိုသော် သူသည် ယခု စစ်ဆေးမေးမြန်းခြင်းကို ခံနေရသည်။"[၂၃]

သေသူအတွက် လွတ်ငြိမ်းချမ်းသာခွင့်ရဖို့ ဆုတောင်းပေးခြင်းသည် သူ၏အဆင့်အတန်းများကို မြင့်မားစေပါသည်။

၂၂ - မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊တွဲ - ၆၊ နံပါတ် - ၂၅၂။

၂၃ - အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် - ၃၂၂၁။

တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။

إِنَّ الرَّجلَ لَتُرْفَعُ دَرَجَتهُ فِي الْجَنَّةِ: فَيَقُوْل أَنَّى هَذَا؟ فَيُقَالُ: بِاسْتغْفَارِ وَلَدِكَ لَكَ

ဂျန္နသ်သုခဘုံတွင် လူတစ်ဦးသည် အဆင့်အတန်း မြှင့်တင်ပေးခြင်းခံရသောအခါ သူက ကျွန်ုပ်အား အဘယ်အတွက်ကြောင့် အဆင့်အတန်းမြှင့်တင်ပေးပါသနည်းဟု မေးမြန်းလေသည်။ ထိုအခါ အသင့်သားသမီးများ၏ လွတ်ငြိမ်းချမ်းသာခွင့်တောင်းခံပေးမှုကြောင့် ယခုလို အဆင့်အတန်းမြှင့် ပေးခြင်းဖြစ်သည်ဟု ဖြေကြားကြလိမ့်မည်။[၂၄]

## သေသူများကိုယ်စား စွဒကဟ်အလှူဒါနပေးခြင်း

သေသူများကိုယ်စား စွဒကဟ်အလှူဒါနပေးခြင်းနှင့် စပ်လျဉ်းပြီး သာသနာ့ပညာရှင်များအကြား အဆိုကွဲပြားသည်။ တချို့ပညာရှင်များက သားသမီးများကသာလျှင် သေသူ့အတွက် စွဒကဟ်အလှူဒါနပြုပေးနိုင်သည်ဟု ဆိုကြသည်။ တချို့ပညာရှင်များကမူ မည်သူမဆို သေသူ့အတွက် စွဒကဟ်အလှူ

---

၂၄ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၃၆၆၀။

ဒါနပြုပေးနိုင်သည်ဟု ဆိုကြသည်။ နှစ်ဖက်စလုံးတွင် အထောက်အထားများ ကိုယ်စီရှိကြသည်။ ထို့ကြောင့် ဤကဏ္ဍသည် ချောင်လည်မှုရှိသည်ဟု ဆိုနိုင်သည်။ မည်သူမဆို မိမိ၏ ဆွေးမျိုးသားချင်းတစ်ဦးဦးအတွက်စွဒကဟ်အလှူဒါနပြုပေးလိုပါက ပြုပေးနိုင်သည်။ အထောက်အထားများကို ဖော်ပြလိုက်သည်။

စအဒ်ဗင်န် အိုဗာဒဟ် رضي الله عنهက တမန်တော်မြတ် ﷺထံ လျှောက်ထားခဲ့သည်။ "အို–တမန်တော်၊ ကျွန်တော်၏ မိခင် ကွယ်လွန်သွားပါပြီ။ ထိုအချိန်က ကျွန်တော်မျိုး ရှိမနေခဲ့ပါ။ ယခု ကျွန်တော်မျိုး၏မိခင်အတွက် စွဒကဟ်အလှူဒါနပြုလျှင် မိခင်အတွက် အကျိုးရှိနိုင်ပါမည်လော။ ထိုအခါ တမန်တော်မြတ် ﷺက "ရှိသည်"ဟု ဖြေကြားတော်မူခဲ့သည်။ ထိုအခါ စအဒ် رضي الله عنهက လျှောက်တင်သည်။ ကျွန်တော့်ထံတွင် အသီးအနှံခြံတစ်ခြံရှိပါသည်။ ကိုယ်တော့်ကို သက်သေထားပြီး ကျွန်တော်သည် ထိုခြံကို မိခင်အတွက် အလှူဒါနပြုပါသည်။[၂၅]

အဗူဟိုရိုင်ရဟ် رضي الله عنهက ပြောပြသည်။ လူတစ်ဦးသည် တမန်တော်မြတ် ﷺထံ လျှောက်တင်ခဲ့သည်။

---

၂၅ – ဗုခါရီကျမ်း၊ နံပါတ် – ၂၇၅၆။

إِنَّ أَبِيْ مَاتَ وَتَرَكَ مَالًا وَلَمْ يُوْصِ فَهَل يُكَفِّرُ عَنْهُ إِنْ تُصُدِّقَ عَنْهُ؟

ကျွန်တော်မျိုး၏ ဖခင်မှာ ကွယ်လွန်သွားပါပြီ။ ငွေကြေးအနည်းငယ်လည်း ချန်ထားခဲ့ပါသည်။ တစ်စုံတစ်ရာ မှာတမ်းခြင်းလည်း မပြုလုပ်ခဲ့ပါ။ အကယ်၍ ကျွန်တော်သည် သူ့အတွက် စွဒကဟ်အလှူဒါနလုပ်ပေးလျှင် အပြစ်များမှ ခွင့်လွှတ်ခြင်းခံရမည်လော။ ထိုအခါ ကိုယ်တော်မြတ် ﷺ က "မှန်ပေသည်"ဟု ဖြေကြားတော်မူခဲ့သည်။[၂၆]

အိမာမ်နဝဝီ رحمه الله က မွတ်စ်လင်မ်ကျမ်းအကျယ်ဖွင့်ဆိုကျမ်းတွင် بَابُ وُصُولِ ثَوَابِ الصَّدَقَةِ إِلَى المَيِّتِ "စွဒကဟ်အလှူဒါန၏ အကျိုးကုသိုလ်သည် သေသူထံသို့ ရောက်ရှိသည်"ဟု ခေါင်းစဉ်တပ်ထားပေသည်။ အိမာမ်နဝဝီ رحمه الله ၏ ဤသို့ ခေါင်းစဉ်တပ်ထားခြင်းမှ သိရသည်မှာ မိဘနှစ်ပါးအတွက်သာမဟုတ်ဘဲ အခြားမည်သူ့အတွက်ကိုမဆို စွဒကဟ်အလှူဒါနပြုပေးပိုင်သည်ဟူ၏။

ဤနေရာတွင် အချက်တစ်ချက် တင်ပြရန်အရေးကြီးပါသည်။ ယင်းမှာ စွဒကဟ်အလှူဒါနသည် ကွယ်လွန်သေ

[၂၆] - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် - ၁၆၃၀။

ဆုံးသွားသော မိဘနှစ်ပါးအတွက်သာမဟုတ်ဘဲ အသက်ရှင်လျက်ရှိသော မိဘနှစ်ပါးအတွက်ပါ စွဒကဟ်အလှူဒါနပြုပေးပိုင်သည်။ ဤသည်နှင့်စပ်လျဉ်းပြီး ဆော်ဒီအိုလမာကော်မတီအဖွဲ့၏ ဖသဝ်ါတစ်ခုအား ဖသာဝ်ါအိစ္စလာမီယဟ်ကျမ်းတွင် တင်ပြထားပါသည်။[၂၇]

## သေသူအတွက် ဟဂ်ျပြုပေးခြင်း

သေသူအတွက် အီစ္စာလေ့ဆဝ်ါးဗ်ပို့သရန် ဟဂ်ျပြုပေးခြင်းသည်လည်း တရားတော်အရ ပြုပိုင်သည်။ ဟဂ်ျဟူသည် ကိုယ်ခန္ဓာဖြင့်ရော၊ ငွေကြေးဥစ္စာဖြင့်ပါ ပြုလုပ်ရသောအိဗာဒသ် ဖြစ်သည်။ ထို့ကြောင့် ကိုယ်ခန္ဓာဖြင့်ပြုလုပ်ရသော အိဗာဒသ်ဆိုလျှင် တိကျသောအထောက်အထားရှိမှသာ သေသူအတွက် ပြုပေးပိုင်မည်ဟု ပညာရှင်များက တညီတညွတ်တည်းဆိုကြသည်။ ထိုသို့ တိကျသောအထောက်အထား မရှိပါက ကိယာစ်ဖြင့်ဆင်ခြင်သုံးသပ်ပြီး ပြုလုပ်၍ မရနိုင်ပေ။ သေသူအတွက် ဟဂ်ျပြုပိုင်ခွင့်ရှိကြောင်း အထောက်အထားများမှာ အောက်ပါ

၂၇ – ဖသာဝ်ါအစ္စလာမီယာကျမ်း၊တွဲ – ၁၊ နံပါတ် – ၈၄။

အတိုင်းဖြစ်သည်။

ဂျုဟိုင်နဟ်မျိုးနွယ်မှ အမျိုးသမီးတစ်ဦးသည် တမန်တော်မြတ် ﷺ ထံသို့လာ၍ လျှောက်ထားသည်။ အို- တမန်တော်၊ ကျွန်မ၏ မိခင်သည် ဟဂ်ျလုပ်မည်ဟု နဇရ်ကိုးထားပါသည်။ သို့သော် မဆောင်ရွက်ရသေးမီအလျင် ကွယ်လွန်သွားခဲ့ပါသည်။ ထို့ကြောင့် မိခင်အစား ကျွန်မအနေနှင့် ဟဂ်ျပြုလုပ်ပေးလို့ ရပါသလား။ တမန်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။

نَعَمْ, حُجِّيْ عَنْهَا, أَرَأَيْتِ لَوْكَانَ عَلى أُمِّكِ دَيْنٌ أَكُنْتِ قَاضِيَتَهُ؟ اِقْضُوا اللّٰهَ, فاللّٰهُ أَحَقُّ بِالْوَفَاءِ

"ရပေသည်။ သင်မ၏ မိခင်အတွက် ဟဂ်ျပြုပေးလို့ရပေသည်။ အကယ်၍ အသင်မ၏ မိခင်ပေါ်တွင် အကြွေးတင်နေပါက အသင်မ ဆပ်ပေးမည်မဟုတ်ပါလော။ အလ္လာဟ်အရှင်မြတ်၏ အကြွေးကိုလည်း ဆပ်ကြကုန်။ အလ္လာဟ်အရှင်မြတ်၏အကြွေးသည် ပို၍ပင် ဆပ်ထိုက်ပေသည်။"[၂၈]

အထက်ပါဟဒီးဆ်ကြောင့် အိမာမ်ဗုခါရီသည် ဤအ

---

၂၈ - ဗုခါရီကျမ်း၊ နံပါတ် - ၁၈၅၂။

ခန်း၏ ခေါင်းစဉ်အား بَابُ الحَجِّ وَالنُّذُوْرِ عَنِ المَيِّتِ وَالرَّجُلُ يَحُجُّ عَنِ الْمَرْأَةِ "သေသူကိုယ်စား ဟဂ်ျပြုခြင်းနှင့် နဇရ် အကောင်အထည်ဖော်ခြင်း၊ အမျိုးသားသည် အမျိုးသမီးကိုယ်စား ဟဂ်ျပြုပေးခြင်း"ဟု အမည်ပေးထားသည်။ ဤခေါင်းစဉ်မှ သိရသည်မှာသေသူသည်ဟဂ်ျပြုရန်နဇရ်ကိုးထားသည်ဖြစ်စေ၊ နဇရ်မကိုးထားသည်ဖြစ်စေ သူ့ကိုယ်စား ဟဂ်ျပြုပေးပိုင်ခွင့်ရှိသည်ဟူ၏။

သေသူအတွက် အကြောင်းပြချက်မရှိဘဲသက်သက် ဟဂ်ျပြုပေးခြင်းနှင့်စပ်လျဉ်းပြီး "မုရှ်ရိက်မိဘနှစ်ပါးနှင့် ဆွေမျိုးသားချင်းများအတွက် အီစ္စာလေ့ဆဝါးဗ်ပို့ပေးခြင်း"အခန်းအောက်တွင် အဗူဒါဝူဒ်ကျမ်းလာဟဒီးဆ်တော်ကို ဖော်ပြခဲ့ပြီးဖြစ်သည်။

إِنَّهُ لَوْ كَانَ مُسْلِمًا فَأَعْتَقْتُمْ عَنْهُ أَوْ تَصَدَّقْتُمْ عَنْهُ أَوْ حَجَجْتُمْ عَنْهُ بَلَغَهُ ذَلِكَ

"အကယ်၍ အသင့်ဖခင်သည် မွတ်စ်လင်မ်တစ်ဦးသာ ဖြစ်ခဲ့မည်ဆိုလျှင် သူ့အတွက် အသင်တို့၏ ကျွန်သူကောင်းပြုခြင်း၊ စွဒကဟ်အလှူဒါနပြုခြင်း၊ ဟဂ်ျပြုခြင်းတို့၏ အကျိုး

သည် သူ့ထံ မုချရောက်မည်သာ။"[၂၉]

ကွယ်လွန်သွားသူအတွက် ဟဂ်ျပြုပေးခြင်းကို ၎င်း၏ သားသမီးများက ပြုပေးပိုင်ခွင့်ရှိသကဲ့သို့ အခြားဆွေမျိုးသား ချင်းကလည်း ပြုပေးပိုင်ခွင့်ရှိသည်။

## သေသူအတွက် ဥပုသ်စောင့်ထိန်းပေးခြင်း

ကွယ်လွန်သေဆုံးသွားသူ၏ နဇရ်ကိုးထားခဲ့သော ဥပုသ်သီလများကို သေသူကိုယ်စား ပြုပေးခြင်းသည်လည်း စွန္နသ်လမ်းစဉ်ဖြစ်သည်။ သို့သော် ဖရသ္ဖ်ဥပုသ်များ ကဖ္ဖာဖြည့် ပေးခြင်းနှင့်စပ်လျဉ်း၍မူ သာသနာ့ပညာရှင်များအကြား အကွဲ အလွဲရှိသည်။ အကယ်၍ ရောဂါဝေဒနာကြောင့် သို့မဟုတ် ခရီး ကြောင့် စသည့်အကြောင်းတစ်ခုခုကြောင့် မထားဖြစ်ခဲ့သော ဥပုသ်များအတွက် ကိုယ်စားထားပေးပိုင်ခြင်း၊ မပိုင်ခြင်းတွင် အကွဲအလွဲရှိသည်။ တချို့ပညာရှင်များက ကိုယ်စားဥပုသ် မစောင့်ထိန်းဘဲ ဖိဒ်ယာလျော်ကြေးသာ ပေးဆောင်လိုက်ရမည် ဟု ဆိုသည်။ တချို့ပညာရှင်များကမူ သေသူကိုယ်စား ဥပုသ်

---

၂၉ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် ၂၈၈၃။

စာင့်ထိန်းပေးခွင့်ရှိသည်ဟု ဆိုကြသည်။ ဤသည်နှင့်စပ်လျဉ်း၍ ဂျမ်ဟူးရ်ပညာရှင်အများစု၏ ရပ်တည်ချက်မှာမူ ကွယ်လွန်သေဆုံးသွားသူ၏ နဇရ်ကိုးထားခဲ့သော ရိုဇဟ်ဥပုသ်များဖြစ်စေ ရောဂါဝေဒနာ သို့မဟုတ် ခရီးထွက်ခြင်းကြောင့်ဖြစ်စေ စသည့် အကြောင်းတစ်ခုခုကြောင့်မထားဖြစ်ခဲ့သည့် ရိုဇဟ်ဥပုသ်များ အတွက် သေသူကိုယ်စား ကျန်ရစ်သူမိသားစုမှ စောင့်ထိန်းခွင့် ရှိသည်ဟူ၏။ ရိုဇာဥပုသ်များနှင့်စပ်လျဉ်း၍ အထောက်အထားများမှာ အောက်ပါအတိုင်းဖြစ်သည်။

တမန်တော်မြတ် ﷺ ထံသို့ အမျိုးသမီးတစ်ဦးရောက်လာပြီး လျှောက်ထားသည်။ အို–တမန်တော်၊ ကျွန်မ၏ မိခင်သည် ကွယ်လွန်သွားပါပြီ။ သူမသည် ရိုဇာဥပုသ်စောင့်ထိန်းရန် နဇရ်ကိုးထားခဲ့ပါသည်။ ကျွန်မသည် သူမကိုယ်စား ဥပုသ်စောင့်ထိန်းပေး၍ ရပါသလား။ ထိုအခါ ကိုယ်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။

أَرَأَيْتِ لَوْ كَانَ عَلَى أُمِّكَ دَيْنٌ فَقَضَيْتِهِ أَكَانَ يُؤَدَّى ذلك عَنْهَا

အကယ်၍ အသင့်မိခင်ပေါ်တွင် တင်ကျန်ရစ်ခဲ့သော အကြွေးများကို အသင်မက ဆပ်ပေးလိုက်လျှင် ထိုအကြွေးများ

ကျေသွားမည်လော။ ထိုအမျိုးသမီးက ဟုတ်ကဲ့ အကြွေး ကျေသွားပါမည်ဟု လျှောက်တင်သည်။ ကိုယ်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ သင်မ၏ မိခင်ကိုယ်စား ဥပုသ်စောင့် ထိန်းလိုက်ပါ။[၃၀]

အိမာမ်ဗုခါရီ رحمه الله က မိမိ၏ စွဟီးဟ်ကျမ်းတွင် بَابُ مَنْ مَاتَ وَعَلَيْهِ صَوْمٌ ဟူသော ခေါင်းစဉ်အောက်တွင် အာအိ ရှဟ် رضي الله عنها ၏ ဆင့်ပြန်ချက်တစ်ခုကို တင်ပြသည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်။

مَنْ مَاتَ وَعَلَيْهِ صِيَامٌ صَامَ عَنْهُ وَلِيُّهُ

ကွယ်လွန်သွားသူပေါ်တွင် စွောမ်ဥပုသ်များ အကြွေး ကျန်ရှိနေပါက အမွေစားအမွေခံက သူ့အစား စွောမ်ဥပုသ်စောင့် ထိန်းပေးရမည်။”[၃၁]

အထက်ပါဟဒီးဆ်တော်များအရ ကွယ်လွန်သေဆုံး သွားသူ၏ အမွေစားအမွေခံမည်သူမဆို သူ့အတွက် စွောင် ဥပုသ်စောင့်ထိန်း၍ ရပေသည်။

---

၃၀ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် ၁၉၆။

၃၁ – ဗုခါရီကျမ်း၊ နံပါတ် ၁၉၅၂။

# ကျေးကျွန်သူကောင်းပြုခြင်း

သေသူအတွက်ရည်စူးကာ ကျွေးကျွန်သူကောင်းပြုခြင်းသည်လည်း သူ့အတွက် အကျိုးကုသိုလ်ရမည့်အကြောင်းခံတစ်ခု ဖြစ်သည်။ အဗူဒါဝူးဒ်ကျမ်းတွင် باب ماجاء في وصية الحربي يسلم وليه أيلزمه أن ينفذها အခန်းတွင် ဟဒီးဆ်တစ်ပုဒ်ကို တင်ပြထားသည်။ အာစ္စ် ဗင်န် ဝါအိလ်သည် မုရှ်ရိက်တစ်ဦး ဖြစ်သည်။ သူက မိမိကိုယ်စား ကျေးကျွန် အယောက်(၁၀၀)ကို သူကောင်းပြုရန် သေတမ်းစာမှာခဲ့သည်။ ဖခင်ကွယ်လွန်သွားသောအခါ သားဖြစ်သူ ဟိရှားမ်က ဖခင်အတွက် ကျေးကျွန် အယောက် (၅၀)ကို သူကောင်းပြုလိုက်ပြီး နောက်သားတစ်ဦး ဖြစ်သူ အမရ်ဗင်န် အားစ္စ် ﵁က ကျန်အယောက်(၅၀)ကို သူကောင်းပြုမည်ဖြစ်သည်။ သို့သော် အမရ်ဗင်န် အားစ္စ်က " ကျွန်ုပ်သည် ဤကိစ္စနှင့်စပ်လျဉ်းပြီး ကိုယ်တော်မြတ် ﷺကို မေးမြန်းပြီးမှသာ ဆောင်ရွက်မည် ဖြစ်သည်"ဟုဆိုကာ တမန်တော်မြတ် ﷺထံ မေးမြန်းလျှောက်ထားခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူခဲ့သည်။

إِنَّهُ لَوْ كَانَ مُسْلِمًا فَأَعْتَقْتُمْ عَنْهُ أَوْ تَصَدَّقْتُمْ عَنْهُ أَوْ حَجَجْتُمْ عَنْهُ بَلَغَهُ ذَلِكَ

"အကယ်၍ အသင့်ဖခင်သည် မွတ်စ်လင်မ်တစ်ဦးသာ ဖြစ်ခဲ့မည်ဆိုလျှင် သူ့အတွက် အသင်တို့၏ ကျွန်သူကောင်းပြုခြင်း၊ စွဒကဟ်အလှူဒါနပြုခြင်း၊ ဟဂျ်ပြုခြင်းတို့၏ အကျိုးသည် သူ့ထံ မုချရောက်မည်သာ။"[၃၂]

## သေသူအတွက် ကုရ်ဘာနီလုပ်ပေးခြင်း

သေသူအတွက်ရည်စူး၍ ကုရ်ဘာနီလုပ်ခြင်းသည်လည်း ပြုပိုင်သောကိစ္စဖြစ်သည်။ မွတ်စ်လင်မ်ကျမ်းတွင်လာရှိသည်။ တမန်တော်မြတ် ﷺ သည် မိမိအွမ္မသ်နောက်လိုက်သားများ(သေသူရော၊ ရှင်နေသူရော)အားလုံးအတွက် ကုရ်ဘာနီပြုပေးတော်မူခဲ့သည်။[၃၃]

သေသူအတွက်ရည်စူး၍ ကုရ်ဘာနီလုပ်ခြင်းနှင့်စပ်

၃၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် ၂၈၈၃။

၃၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် ၁၉၆၇။

လျှဉ်းပြီး သာသနာ့ပညာရှင်များအကြား အကွဲအလွဲရှိသည်။ သေသူအတွက် ကုရ်ဘာနီပြုပေးပိုင်ခွင့်မရှိဟု ဆိုကြသော ပညာရှင်များသည် အထက်ပါဟဒီးဆ်တော်အား တမန်တော်မြတ် ﷺနှင့်သာ သက်ဆိုင်သော သီးသန့်ကျင့်မှုဆောင်ရွက်ချက်ဟု သတ်မှတ်ကြသည်။ ထို့ကြောင့် ကိုယ်တော်မြတ် ﷺ ကသာ မိမိအွမ္မသ်အတွက် ပြုလုပ်ခြင်းဖြစ်၍ အခြားသူတစ်ဦးတစ်ယောက်က ကိုယ်တော်မြတ် ﷺနည်းတူ လိုက်လုပ်ခြင်း မပိုင်ပေ။

မည်သို့ပင်ဆိုစေကာမူ ကုရ်ဘာနီလုပ်ခြင်းသည် လည်း စွဒကဟ်တစ်မျိုးပင် ဖြစ်သည်။ စွဒကဟ်ပေးခြင်းသည် တရားတော်အရ ပြုပိုင်သည်။ သို့သော်လည်း သေသူအတွက် ရည်စူး၍ ကုရ်ဘာနီပြုပေးသည့်ကိစ္စမှာအပိုင်း(၃)ပိုင်းရှိသည်ကို သတိပြုရမည်။ (၁)ရှင်နေသူများနှင့်တွဲ၍ သေသူအတွက် ပါရည်စူးကာ ကုရ်ဘာနီပြုခြင်း။ ဥပမာ -လူတစ်ဦးက ရှင်နေသောမိမိအတွက်ကုရ်ဘာနီပြုကာ သေသူများအတွက်ပါ ရည်စူး၍ ကုရ်ဘာနီလုပ်ခြင်း။ ဤသည် တမန်တော်မြတ်၏ ကုရ်ဘာနီပုံစံလည်းဖြစ်သည့်အတွက် ခွင့်ပြုထားပေသည်။ (၂) ကွယ်လွန်သူသည် မသေခင်အလျင်က မိမိအတွက်ကုရ်ဘာနီပြုပေးရန် မှာတမ်းသွားခြင်း။ ထိုသို့ မှာတမ်းသွားပါက သေသူအတွက်

ရှင်သူများအနေဖြင့် တတ်စွမ်းနိုင်ပါက ကုရ်ဘာနီပြုပေးရန် ဝါဂျိဗ်တာဝန်ဖြစ်သည်။ (၃) သေသူအတွက်သာ သီးသန့်ရည်စူး၍ ကုရ်ဘာနီပြုခြင်း။ ဥပမာ– ကွယ်လွန်သွားပြီဖြစ်သော မိမိ၏ မိခင်၊ ဖခင်အတွက်ဟု ရည်စူး၍ကုရ်ဘာနီပြုပေးခြင်း။ ဤအချက်ကို ဟန်ဗလီပညာရှင်များက ခွင့်ပြုထားပြီး သေသူအဖို့လည်း ကုသိုလ်အကျိုးရောက်သည်ဟု ဆိုကြသည်။ သို့သော် ယင်းအဆိုကို ထောက်ခံနေသည့် မှန်ကန်ခိုင်လုံသောဟဒီးစ် မတွေ့ရပေ။ စွဒ်ကဟ်နှင့်ကိယားစ်ယှဉ်ထိုးပြီး ပြုပိုင်သည်ဟု ယူဆသော ယူဆချက်တစ်ခုသာ ဖြစ်သည်။ ရှိုက်ခ်ဆွာလေ့ဟ် အုသိုင်မီန်း رحمه الله က–

ولكن لا نرى أن تخصيص الميت بالأضحية من السنة ؛ لأن النبي صلى الله عليه وسلّم لم يضح عن أحد من أمواته بخصوصه ، فلم يضح عن عمه حمزة وهو من أعز أقاربه عنده ، ولا عن أولاده الذين ماتوا في حياته ، وهم ثلاث بنات متزوجات ، وثلاثة أبناء صغار ، ولا عن زوجته خديجة وهي من أحب نسائه إليه ، ولم يرد عن أصحابه في عهده أن أحداً منهم ضحى عن أحد من أمواته .

“သို့သော် သေသူများအတွက် သီးသန့်ထား၍ ကုရ်

ဘာနီပြုလုပ်ခြင်းသည် စွန္နသ်ဟု ကျွန်ုပ်မယူဆပါ။ အကြောင်းမှာ နဗီတမန်တော်မြတ် ﷺသည် ထိုသို့ သေသူများအတွက် သီးသန့်ထားပြီး ကုရ်ဘာနီလုပ်ပေးခြင်းမရှိခဲ့ပါ။နဗီတမန်တော်မြတ် ﷺသည် ဆွေးမျိုးသားချင်းများအနက် မိမိအချစ်ဆုံးဖြစ်သူ ဘထွေးတော်ဟမ်ဇဟ်အတွက် ကုရ်ဘာနီမပြုခဲ့ပါ။ ထို့ပြင် ကွယ်လွန်သွားသော မိမိ၏သားသမီး(အိမ်ထောင်သည် သမီးသုံးဦး၊ ငယ်ရွယ်သောသားယောက်ျားလေးသုံးဦး)တို့ အတွက်လည်း သီးသန့်ထား၍ ကုရ်ဘာနီမပြုခဲ့ပါ။ မိမိ၏အချစ်ဆုံးဇနီးဖြစ်သည့်ခဒီဂျဟ် رضي الله عنها အတွက်လည်း ကုရ်ဘာနီမပြုခဲ့ပေ။ တမန်တော်မြတ် ﷺ၏ ခေတ်၌ရှိသော စွဟာဗဟ် သာဝကကြီးတစ်ဦးဦးကလည်း သေသူတစ်ဦးတစ်ယောက်အတွက် ကုရ်ဗာနီပြုပေးခဲ့ကြောင်း ဆင့်ဆိုချက်မလာရှိပေ။”

ထို့ကြောင့် သေသူအတွက်ရည်စူး၍ သီးသန့် သားကောင်တစ်ကောင်ဝယ်ယူကာ ကုရ်ဘာနီပြုပေးခြင်းသည် အထောက်အထား မရှိသည့်အတွက် ရှောင်ရှားရမည်ဖြစ်သည်။

## အရေးကြီးသော ရှင်းလင်းချက်တစ်ရပ်

ကျွန်ုပ်တို့၏ပတ်ဝန်းကျင်တွင် အများအားဖြင့် **သားသမီးများကသာ ကွယ်လွန်သူမိဘများအတွက် စွဒကဟ်လုပ်ပေးလေ့ရှိကြသည်။ မိဘများက အသက်ရှင်လျက်ရှိပြီး ကွယ်လွန်သူသားသမီးအတွက်မူ စွဒကဟ်လုပ်ပေးခြင်း မပြုပိုင်ဟု ထင်မှတ်နေကြသည်။** အကယ်၍ ကျွန်ုပ်တို့သည် စွဒကဟ်လုပ်ခြင်းနှင့် စပ်လျဉ်းပြီး လာရှိသော ဟဒီးဆ်တော်များကို လေ့လာကြည့်မည်ဆိုပါက မိဘများကလည်း ကွယ်လွန်သူသားသမီးများအတွက် စွဒကဟ်အလှူဒါနပေးပိုင်ခွင့် ရှိပေသည်။

## ကွယ်လွန်သူကို အကျိုးမဖြစ်ထွန်းစေနိုင်သောကိစ္စရပ်များ

ကျွန်ုပ်တို့၏ ပတ်ဝန်းကျင်တွင် ကွယ်လွန်သူများအတွက် အီစွာလေ့ဆဝါးဗ်အမည်ဖြင့် ရှရီအသ်တရားတော်နှင့် လားလားမျှမသက်ဆိုင်သော ကျင့်ဆောင်မှု အများအပြား ပြန့်နှံ့လျက်ရှိသည်။ ရှေ့တွင်လည်း တင်ပြခဲ့ပါပြီ။ အီစွာလေ့ဆဝါးဗ်

အမည်ဖြင့် ပြုလုပ်နေကြသည့် တချို့သောကျင့်ဆောင်မှုများ သည် သေသူအတွက်လည်း ဘာအကျိုးမျှမရှိသကဲ့သို့ ကျင့် ဆောင်သူများအတွက်လည်း ဘာအကျိုးမျှမရှိပေ။ သို့သာမက ကျင့်ဆောင်သူများ၏ ပြစ်မှုအကုသိုလ်စာရင်းတွင် ထပ်လောင်း ထိုးပွားသွားစရာ အကြောင်းပင်ရှိပေသည်။ အဘယ်ကြောင့်ဆို သော် တရားတော်က ပြသထားခြင်းမရှိသော ကိစ္စရပ်များသည် လမ်းလွဲမှုများ၊ ဗိဒ်အသ်များသာဖြစ်သည်။ ဗိဒ်အသ်များသည် ဂျဟန္နမ်ငရဲဘုံသို့ ဝင်ရောက်စေမည့်အကြောင်းခံများဖြစ်သည်။ အီစွာလေဆဝါးဗ်အမည်ဖြင့် ပတ်ဝန်းကျင်းတွင် ပြန့်နှံ့လျက်ရှိ သောကိစ္စများကို တင်ပြလိုက်ပါသည်။

## ဂျနာဇဟ်ထမ်းထားစဉ် ကလိမဟ်ရှဟာဒသ်ရွတ်ဖတ်ခြင်း

ဂျနာဇဟ်ကို သယ်ယူသွားစဉ် ကလိမဟ်ရှဟာဒသ် ဖတ်ရွတ်ခြင်းသည် ကျွန်ုပ်တို့ပတ်ဝန်းကျင်တွင် အစဉ်အလာ တစ်ခု ဖြစ်နေပေပြီ။ တစ်ဦးက အသံကျယ်ကျယ်ဖြင့် ကလိ မဟ်တိုင်ပေးသည်။ ကျန်လူအားလုံးက အနောက်မှ လိုက်ဆိုကြ သည်။ အစ္စလာမ့်ရှရီအသ်တွင် ဂျနာဇဟ်အား သယ်ယူသွားစဉ် အသံကျယ်လောင်စွာ ဒေါ်ဟစ်ခြင်းကို တားမြစ်ထားပေသည်။

အဗူဟိုရိုင်ရဟ် ﷺက ဆင့်ပြန်သည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။

لاَ تُتْبَعُ الْجَنَازَةُ بِصَوْتٍ وَلاَ نَارٍ

ဂျနာဇဟ်လိုက်ပို့သည့်အခါ အသံကျယ်လောင်စွာ ပြောဆိုခြင်းမပြုရ၊ မီးကို ယူဆောင်မသွားရ။[၃၄]

အထက်ပါဟဒီးဆ်တော်အရ ဂျနာဇဟ်သယ်ဆောင်သွားစဉ် အသံကျယ်လောင်စွာဖြင့် မည်သို့သောဇိကိရ်ကိုမျှ မရွတ်ဆိုရပေ။ တိတ်တိတ်ဆိတ်ဆိတ်သာ ဂျနာဇဟ်ကို သယ်ဆောင်သွားရမည်ဟု ရှင်းရှင်းလင်းလင်း သိရပေသည်။

## မုရှ်ရိက်များကသာ ဂျနာဇဟ်ဖတ်ပေးခြင်း

ဂျနာဇဟ်စွလားသ်ဝတ်ပြုခြင်းသည် မွတ်စ်လင်မ်တစ်ဦး၏ အခွင့်အရေးသာဖြစ်သည်။ ယင်းစွလားသ်ကို ဆောင်ရွက်ခြင်းသည် မွတ်စ်လင်မ်များအပေါ်တွင်သာ ဖရည်ွတာဝန်ဖြစ်သည်။ ဂျနာဇဟ်စွလားသ်ဝတ်ပြုသူသည် မုအ်မင်န်ဖြစ်မှသာလျှင် ဂျနာဇဟ်ဝတ်ပြုခြင်းသည် အကျိုးရှိမည်ဖြစ်သည်။

---

၃၄ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် ၃၁၇၁။

အကယ်၍ ဂျနာဇဟ်စွလာသ်ဝတ်ပြုသူများသည် မွတ်စ်လင်မ် အမည်ခံသာဖြစ်၍ရှိရ်က်အမှုကိုကျူးလွန်နေကြသူများဖြစ်လျှင် ထိုသို့သောသူများ၏ ဂျနာဇဟ်စွလားသ်ဝတ်ပြုပေးမှုသည် သေသူအတွက် ဘာအကျိုးမျှရှိမည်မဟုတ်ပေ။

မွတ်စ်လင်မ်ကျမ်းတွင် مَنْ صَلَّى عَلَيْهِ أَرْبَعُوْنَ شُفِّعُوْا فِيْهِ "အကြွင်သူ၏ ဂျနာဇဟ်ကို အယောက်လေးဆယ်က ဝတ်ပြုပေးလျှင် သူတို့၏တောင်းဆုသည် လက်ခံခြင်းခံရသည်" ဟူသော ခေါင်းစဉ်အောက်တွင် ဟဒီးဆ်တော်တစ်ပုဒ်ကို တင်ပြထားသည်။ အိဗ်နုအဗ္ဗားစ် ﵄က ပြောပြသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကျွန်ုပ် ကြားခဲ့သည်။

مَامِنْ رَجُلٍ مُسْلِمٍ يَمُوْتُ فَيَقُوْمُ عَلَى جَنَازَتِهِ أَرْبَعُوْنَ رَجُلًا لَا يُشْرِكُوْنَ بِاللهِ شَيْئًا إِلَّا شَفَّعَهُمُ اللهُ فِيْهِ

မွတ်စ်လင်မ်တစ်ဦးကွယ်လွန်သေဆုံးသွားသောအခါ ရှိရ်က်အမှုကို မကျူးလွန်သောပုဂ္ဂိုလ်အယောက်(၄၀)က ဂျနာဇဟ်စွလားသ်ဝတ်ပြုပေးပါက အလ္လာဟ်အရှင်မြတ်သည် သေသူအတွက်ထိုသူတို့တောင်းပေးသော ရှဖာအသ်အသနားခံမှုကို လက်ခံတော်မူပေသည်။[၃၅]

၃၅ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် ၉၄၈။

အလ္လာမဟ်အဗ်ဒုရ်ရဟ်မာန် မုဘာရက်ပူရီ ﷫ က သုဟ်ဖသုလ်အဟ်ဝဇီကျမ်းတွင် မွတ်စ်လင်မ်ကျမ်း၏ အထက် ပါဟဒီးဆ်ကို တင်ပြပြီးနောက် ဤသို့ ရေးသားတင်ပြသည်။ " ကွယ်လွန်သူအတွက် လူအယောက်(၄၀)၏ ရှဖာအသ်အသ နားခံပေးမှုသည် လက်ခံခြင်းခံရရန်မှာ စည်းကမ်းချက် နှစ်ချက် လိုအပ်သည်။ (၁) သူတို့အားလုံးသည် သေသူ လွတ် ငြိမ်းချမ်း သာခွင့်ရဖို့အတွက် စိတ်စေတနာဖြူစင်စွာ ဆုတောင်းပေးခြင်း ဖြစ်ရမည်။ (၂)ထိုသူများတွင် ရှိရ်က်အမှုကိုကျူးလွန်သူတစ် ဦးတစ်ယောက်မျှ မပါရှိရ။[၃၆]

မွတ်စ်လင်မ်တစ်ဦးတိုင်းသည် ဤအချက်ကို အမြဲ သတိချပ်နေသင့်သည်။ ယင်းမှာ မိမိကိုယ်တိုင်လည်း မုအ်မင်န် ပီသအောင် သက်တမ်းမွေးမြူပါ။ မုအ်မင်န်များ၊ သာသနာရေး ကိုင်းရှိုင်းသူများဖြင့်သာ အတူသွား အတူလာ ပေါင်းသင်းဆက် ဆံပါ။ သို့မှသာ မိမိ၏ ဂျနာဇဟ်တွင် အလ္လာဟ်အရှင်မြတ် ရှဖာ အသ်လက်ခံမည့်ပုဂ္ဂိုလ်များ ပါဝင်မည်ဖြစ်သည်။

---

၃၆ – သုလ်ဖသုလ်အဟ်ဝဇီကျမ်း၊ တွဲ – ၄၊ စာ – ၉၈။

# ဂျနာဇဟ်စွလားသ်ဝတ်ပြုပြီးနောက် ချက်ချင်း ဒုအာတောင်းခြင်း

ဂျနာဇဟ်စွလားသ်ဝတ်ပြုပြီးနောက် ချက်ချင်းပင် သေသူ၏ဘေးပတ်လည်တွင် လူစုလိုက်ပြီး ဒုအာတောင်းခံသည့် အစဉ်အလာသည်လည်း ပတ်ဝန်းကျင်တွင် တော်တော်ပြန့်နှံ့ လျက်ရှိသည်။ ဤကျင့်ဆောင်မှုသည်လည်း တရားတော်တွင် ဘယ်မှာမှ မတွေ့ရသောကိစ္စရပ်ဖြစ်သည်။ တမန်တော်မြတ် ﷺနှင့် စွဟာဗဟ်များ၏ ခေတ်သမယတွင် တွေ့ရသောပုံစံမှာ ဂျနာဇဟ်စွလာသ်ဝတ်ပြု၍ သေသူအား မြေမြှုပ်နှံပြီးနောက်မှ ဒုအာတောင်းခံကြခြင်းဖြစ်သည်။ စွဟီးဟ်ဟဒီးဆ်များတွင် အတိအလင်း တွေ့ရသည်။ ဂျနာဇဟ်စွလားသ်ဝတ် ပြုပြီးလျှင်ပြီးချင်း ဒုအာတောင်းခံခြင်းသည် သေသူအတွက် အကျိုးရှိပါလျှင် တမန်တော်မြတ် ﷺက ထိုသို့လုပ်ရန် မပြောဘဲနေမည် မဟုတ်ပေ။ သေချာပေါက် ပြောပြမည်သာဖြစ်သည်။ တမန်တော်မြတ် ﷺသည် မိမိ၏ အွမ္မသ်သားများ အကျိုးရှိမည့် ကိစ္စရပ်တိုင်းကို ရှင်းလင်းပြသတော်မူခဲ့သည်။ အဗ်ဒုလ္လာဟ် ဗင်န်အမရ် رضي الله عنهက ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်

ကြားတော်မူခဲ့သည်။

إِنَّهُ لَمْ يَكُنْ نَبِيٌّ قَبْلِي إِلَّا حَقًّا عَلَيْهِ أَنْ يَدُلَّ أُمَّتَهُ عَلَى خَيْرِ مَا يَعْلَمُهُ لَهُمْ وَيُنْذِرَهُمْ شَرَّ مَا يَعْلَمُهُ لَهُمْ وَإِنَّ أُمَّتَكُمْ هَذِهِ جُعِلَ عَافِيَتُهَا فِي أَوَّلِهَا

"ငါ့ကိုယ်တော့်အလျှင်က ပွင့်ပေါ်ခဲ့သောနဗီတမန်တော်တိုင်းသည် မိမိတို့၏နောက်လိုက်သားများအတွက် မိမိသိသော ကောင်းကျိုးရှိသည့်အရာတိုင်းကို ညွှန်ပြခဲ့ပြီး မိမိသိသော ဆိုးကျိုးဟူသမျှမှ သတိပေးခြိမ်းခြောက်ခဲ့ကြသည်။ အသင်တို့ဤအွမ္မသ်၏ ကောင်းကျိုးချမ်းသာဟူသမျှသည် ဤအွမ္မသ်၏ပထမဦးဆုံးသူများ(စွဟာဗဟ်များ)ထဲတွင်ရှိသည်။"[၃၇]

စွဟာဗဟ်များ၏ခေတ်သမယကို ကြည့်သောအခါ ဂျနာဇဟ်စွလားသ်ဝတ်ပြုပြီးလျှင်ပြီးချင်း ဒုအာတောင်းသည်ကို ဘယ်မှာမှ မတွေ့ရပေ။ တမန်တော်မြတ် ﷺ သည် ကျွန်တော်တို့အတွက် ကောင်းကျိုးရှိသည့်ကိစ္စရပ်ဟူသမျှအား ပြောပြသွားတော်မူခဲ့သည်ကိုလည်း ကျွန်ုပ်တို့ ယုံကြည်ကြသည်။ ဤနေရာတွင် ဒုအာတောင်းခြင်းကို ကိုယ်တော်မြတ် ﷺ က မပြသခဲ့သည့်အတွက်ကြောင့် ဤနေရာတွင် ဒုအာတောင်း

၃၇ - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် ၁၈၄၄။

ခြင်းသည် ကျွန်ုပ်တို့အတွက်လည်း ဘာအကျိုးမျှ ရှိမည်မဟုတ်။ သေသူအတွက်လည်း ဘာအကျိုးမျှ ရှိမည်မဟုတ်ပေ။ ဤသို့ သောကိစ္စရပ်တိုင်းသည် ဗိဒ်အသ် တရားသစ်တီထွင်မှုတွင် အကျုံးဝင်ပေသည်။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။

مَنْ أَحْدَثَ فِيْ أَمْرِنَا هذا مَا لَيْسَ فِيْهِ فَهُوَ رَدٌّ

"မည်သူမဆို ငါတို့၏သာသနာတွင် မရှိသောအရာ တစ်ခုကို အသစ်ထွင်ခဲ့မည်ဆိုလျှင် ထိုအရာသည် စွန့်ပယ်ခြင်း ခံရမည်။"[၃၈]

## သေသူနှင့်အတူ ကုရ်အာန်အာယသ်တော်များထားခြင်း

တစ်ဦးတစ်ယောက် ကွယ်လွန်သေဆုံးသောအခါ ကုရ်အာန် အာယသ်တော်များ ရေးသားထားသည့်ခြုံထည်ကို ခြုံပေးကြသည်။ သေသူနှင့်အတူ ထိုခြုံထည်ကိုပါ မြှုပ်နှံလိုက်ကြသည်။ တစ်ခါတစ်ရံ အာယသ်တော်များ ရေးသားပြီး သေသူနှင့်အတူ

၃၈ - ဗုခါရီကျမ်း၊ နံပါတ် ၂၆၉၇။

မြှုပ်နှံလိုက်ကြသည်။ ဤသို့ပြုရခြင်း၏ ရည်ရွယ်ချက်မှာ ကဗရ်သချိုင်းတွင် မေးခွန်းများအမေးခံရသောအခါ အလွယ်တကူဖြေဆိုနိုင်ရန်အတွက်ဖြစ်သည်။ ဤသည် အခြေအမြစ်မရှိသောလုပ်ရပ်သာ ဖြစ်သည်။ မိမိ၏ ဘဝသက်တမ်းတွင် စစ်မှန်သောမုအ်မင်န်တစ်ဦးအဖြစ် နေထိုင်ကျင့်ကြံခဲ့မှသာလျှင် ကဗရ်၏မေးခွန်းများကို ဖြေဆိုနိုင်ပေမည်။ အလ္လာဟ်အရှင်မြတ်မိန့်ကြားတော်မူသည်။

يُثَبِّتُ اللّٰهُ الَّذِيْنَ اٰمَنُوْا بِالْقَوْلِ الثَّابِتِ فِى الْحَيٰوةِ الدُّنْيَا وَفِى الْاٰخِرَةِ ۚ وَيُضِلُّ اللّٰهُ الظّٰلِمِيْنَ ۙ وَيَفْعَلُ اللّٰهُ مَا يَشَآءُ ﴿٢٧﴾

"အလ္လာဟ်အရှင်မြတ်သည်အီမာန်ယုံကြည်သူများအား တည်တံ့ခိုင်မြဲသောစကား(ကလိမဟ် ရှဟာဒဟ်)နှင့် ဤဘဝတွင်သာမက နောင်ဘဝတွင်ပါ တည်မြဲစေတော်မူသည်။ ၎င်းနောက် မတရားသောသူများကိုမူ အလ္လာဟ်အရှင်မြတ်သည် လမ်းလွဲစေတော်မူသည်။ ထို့ပြင် အရှင်မြတ်သည် အရှင်မြတ်အလိုရှိတော်မူသည်ကို ပြုလုပ်တော်မူသည်။ "[၃၉]

---

၃၉ - ကုရ်အာန်ကျမ်းမြတ်၊၁၄း၂၇။

# သေသူကို မြှုပ်နှံသည့်အချိန် ကုရ်အာန်ရွတ်ဖတ်ခြင်း

သေသူကို မြှုပ်နှံသည့်အချိန် စူရဟ်ယာစီးန်နှင့် အခြားသောစူရဟ်များရွတ်ဖတ်ခြင်းသည်လည်းရှရီအသ်နှင့်ဆန့်ကျင်သောလုပ်ရပ်ဖြစ်သည်။ ကုရ်အာန်နှင့် ဟဒီးဆ်တော်များတွင် ဘာအထောက်အထားမျှ မလာရှိပေ။ မွတ်စ်နဒ်အဟ် မဒ်ကျမ်းနှင့် အဗူဒါဝူးဒ်ကျမ်းတို့တွင်လာရှိသော ဆင့်ပြန်ချက်တစ်ခုရှိသည်။

اِقْرَءُوا يس على موتا كم

"အသင်တို့၏ သေသူများအပေါ် စူရဟ်ယာစီးန် ရွတ်ဖတ်ကြကုန်"[၄၀]

ဤဆင့်ပြန်ချက်တွင် အလွန်အားနည်းချက်ရှိသည်။ အလ္လာမဟ်အလ်ဗာနီ ﷀ က မိန့်ဆိုသည်။ "ဤဆင့်ပြန်ချက်တွင် ဆင့်ပြန်သူသည် "မဂ်ျဟူလ်"မည်သူမည်ဝါမသိရသူ ဖြစ်သည်။[၄၁]

အိမာမ်နဝဝီ ﷀ ကလည်း အလ်အဇ်ကားရ်ကျမ်းတွင်

---

၄၀ – အဗူဒါဝူဒ်ကျမ်း – ၃၁၂၁၊မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ တွဲ – ၅၊ စာ – ၂၆။

၄၁ – မိရ်ကားသ်ကျမ်း၊ နံပါတ် ၁၆၂၂။

“ဤဆင့်ပြန်ချက်သည် ضعيف جدا အလွန်အားနည်းချက်ရှိသော ဆင့်ပြန်ချက်ဖြစ်သည်ဟု မိန့်ဆိုထားပြီး၊ ဟာဖိဇ်ဇ်အိဗ်နိ ဟာဂျရ်က သလ်ခီစုလ်ဟာဗီးရ်ကျမ်းတွင်“ယင်းဆင့်ပြန်ချက်တွင် “မဂ်ျဟူလ်”မည်သူမည်ဝါမသိရသူ(၂)ဦး ပါဝင်နေသည်” ဟု မှတ်ချက်ပြုထားသည်။ ထို့အတူ အိမာမ်ဒါရာကုသ်နီ ﷺ က လည်း “ယင်းဆင့်ပြန်ချက်သည် အားနည်းသည့်အပြင် မူရင်းစာသားသည်လည်း ဆီလျော်မှုမရှိပေ၊ ယင်းကဏ္ဍ၌ မှန်ကန်ခိုင်လုံသောဟာဒီးစ်တစ်ပုဒ်မျှ လာရှိထားခြင်းမရှိဟူ၍ မိန့်ဆိုထားကြသည်ကို အောက်ပါအတိုင်း တွေ့ရပေသည်။

وقال ابن حجر في " التلخيص" (2/104) : " أعله ابن القطان بالاضطراب وبالوقف وبجهالة حال روايه أبي عثمان وأبيه . ونقل ابن العربي عن الدارقطني أنه حديث ضعيف الإسناد مجهول المتن ، ولا يصح في الباب حديث " انتهى .

အလ္လာမဟ်အလ်ဗာနီ ﷺ ကလည်း الغليل ارواء ကျမ်း၊ ဟာဒီးစ်အမှတ် (၆၈၈)တွင် ဤဟာဒီးစ်သည် အလွန်အားနည်းသောဟာဒီးစ်ဖြစ်ကြောင်းကို ဟာဒီးစ်ပါရဂူကြီးများ၏အဆိုများဖြင့် မှတ်ချက်ပြုတင်ပြထားပေသည်။

စွဟီးဟ်ဟဒီးဆ်များတွင် သေသူအား မြှုပ်နှံစဉ် ဖတ်ရွတ်ရမည့်ဒုအာလာရှိသည်။ တမန်တော်မြတ် ﷺ သည် သေသူအား ကဗရ်ကျင်းထဲထည့်သောအခါ ဤဒုအာကို ရွတ်ဆိုတော်မူသည်။

بِسْمِ اللهِ وَعَلَى سُنَّةِ رَسُوْلِ اللهِ

ထိုနည်းအတူ ကွယ်လွန်သူအား မြေမြှုပ်ပြီးနောက်တွင် ဒုအာတောင်းပေးရန် မမိန့်ကြားခဲ့သကဲ့သို့ စူရဟ်ယာစီန်သို့မဟုတ် အခြားစူရဟ်တစ်ပုဒ်ပုဒ် ရွတ်ဖတ်ရန်လည်း လမ်းမညွှန်ခဲ့ပေ။ ထို့အတူ စွဟာဗဟ်များ၏ ခေတ်သမယတွင်လည်း မြေမြှုပ်ပြီးနောက် ထိုအမလ်ကျင့်ဆောင်ခဲ့သည်ဟူသော ခိုင်လုံသောမည်သည့် အထောက်အထားမျှမရှိပေ။

## ကဗရ်ပေါ်တွင် ကုရ်အာန်ရွတ်ဖတ်ခြင်း

ဆဝါးဗ်ပို့သရန်အတွက် ကဗရ်သို့သွား၍ အထူးသဖြင့် ရှအ်ဗာန်လ ၁၅ရက်နေ့ညနှင့် မုဟာရ်ရမ်လ ၁၀ရက်နေ့တို့တွင် သုသာန်သို့သွားကာ မိမိတို့၏ ဆွေးမျိုးသားချင်းများ၏ ကဗရ်

သင်္ချိုင်းတွင် ကုရ်အာန်ကျမ်းမြတ် ဖတ်ရွတ်ခြင်းသည် တရားတော်တွင်မရှိသော ဗိဒ်အသ်အမှုသာ ဖြစ်သည်။ တမန်တော်မြတ် ﷺသည် ကဗရ်သင်္ချိုင်းသို့သွား၍ မဂ်ဖိရသ်ဒုအာတောင်းပေးတော်မူခဲ့သည်ဟူ၍သာ အထောက်အထား လာရှိသည်။ ကိုယ်တော်သည် စွဟာဗဟ်တစ်ပါးပါး၏ ကဗရ်သို့သွားရောက်၍ ကုရ်အာန်ဖတ်ခဲ့သည်ဟူ၍ ဘာအထောက် အထားမျှမရှိပေ။

ကုရ်အာန်နှင့်ဟဒီးဆ်တော်ကို လေ့လာခြင်းအားဖြင့် သိရသည်မှာ ကဗရ်သင်္ချိုင်းသို့သွားရောက်ကာ ကုရ်အာန်ဖတ်ရွတ်ခြင်းသည် မပြုပိုင်သောကိစ္စရပ်ဖြစ်ကြောင်း သိရပေသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။

اجْعَلُوا فِي بيُوْتِكُمْ مِنْ صَلَاتِكُمْ وَلَا تَتَّخِذُوْهَا قُبُوْرًا

"အသင်တို့၏ စွလားသ်အချို့ကို အိမ်တွင်ဝတ်ပြုကြ လေကုန်။ အိမ်များကို ကဗရ်သင်္ချိုင်းအဖြစ် မပြုလုပ်ကြလေနှင့်။"[၄၂]

ဤဟဒီးဆ်တော်က ညွှန်ပြနေသည်မှာ ကျမ်းမြတ်ကုရ်အာန်ဖတ်ရွတ်ရာနေရာသည် အိမ်ဖြစ်သည်။ ကဗရ်သင်္ချိုင်းများမဟုတ်ပေ။ ကျမ်းမြတ်ကုရ်အာန် ဖတ်ရွတ်ခြင်းမရှိသော အိမ်

၄၂ - ဗုခါရီကျမ်း၊ နံပါတ် ၄၃၂။

များကို တမန်တော်မြတ် ﷺက သုသာန်များနှင့် ခိုင်းနှိုင်းမိန့်ကြားတော်မူခဲ့သည်။ ဆိုရသော် သုသာန်များတွင် ကျမ်းမြတ်ကုရ်အာန်ရွတ်ဖတ်ခြင်း မပိုင်ပေ။ အလ္လာမဟ်အလ်ဗာနီ رحمه الله က အဟ်ကာမုလ်ဂျနာအိဇ်ကျမ်း၊ စာမျက်နှာ(၂၄၁)တွင် ဤအကြောင်း အကျယ်တဝင့်ဆွေးနွေးတင်ပြထားသည်။

သေသူကို ဒဖာန်လုပ်ပြီးနောက်ခေတ္တထိုင်ပြီး သေသူ့ကဗရ်၏ခေါင်းရင်းမှာ စူရဟ်ဗကရဟ်အစပိုင်းအာယသ်များနှင့် ခြေရင်းမှာ အဆုံးပိုင်းအာယသ်များကို ဖတ်ကြဖို့ မြန်မာပြည်က မော်လာနာအချို့ တိုက်တွန်းကြသည်ကိုလည်း မြင်တွေ့နေရပါသည်။ အမှန်မှာ ကုရ်အာန်ကျမ်းမြတ်သည် ကဗရ်သင်္ချိုင်းတွင်သွားဖတ်ရသည့်ကျမ်းမဟုတ်ပေ။ ယင်းနှင့်ပတ်သက်ပြီး မှန်ကန်ခိုင်လုံသောဟဒီးဆ်တစ်ပုဒ်မျှလည်းမရှိပေ။ စွဟာဗဟ်သာဝကကြီး အိဗ်နိအုမရ် رضي الله عنه က ထိုသို့ဖတ်ပေးရန် သူမကွယ်လွန်မီမှာတမ်းပြုခဲ့သည်ဟုလာရှိသောဆင့်ဆိုချက်မှာလည်း အလွန်အားနည်းသောဆင့်ဆိုချက် ဖြစ်နေပေသည်။ အကြောင်းမှာမူ စွဟာဗဟ်ကြီးအိဗ်နိအုမရ် رضي الله عنه ၏ မှာတမ်းပြုချက်အဖြစ်လာရှိသောဆင့်ဆိုချက်၌ ဆင့်ဆိုသူတစ်ဦးဖြစ်သူ عبد الرحمن بن العلاء بن اللجلاج ဆိုသူသည် ဟဒီးစ်ပါရဂူများထံတွင် "

မင်္ဂျဟူလ်”မည်သူမည်ဝါဟုမသိရသူဖြစ်ပြီး ၎င်းသူထံမှ مبشر بن إسماعيل မှလွဲ၍ မည်သူကမျှ ဟဒီးစ်ရယူခြင်းမပြုကြကြောင်း ဟဒီးစ်ပါရဂူကြီးအလ္လာမဟ်ဇဟ်ဗီ رحمه الله က အောက်ပါအတိုင်း မိန့်ဆိုထား ပေသည်။

وهذا إسناد ضعيف ، عبد الرحمن بن العلاء بن اللجلاج رجل مجهول ، قال الذهبي في "الميزان" (2/ 579): " ما روى عنه سوى مبشر بن إسماعيل " انتهى .

ထို့အတူ ဟဒီးစ်ပါရဂူကြီးဟာဖိဇ်အိဗ်နိဟဂျ်ရ် رحمه الله ကလည်း အထက်အမည်ပါအဗ်ဒုရ်ရဟ်မာန်းဆိုသူနှင့်ပတ်သက်ပြီး مقبول လက်ခံဖွယ်ရာရှိသည်ဟူ၍သာ မှတ်ချက်ပြု သုံးနှုန်းထားသည်ကို တွေ့ရမည်ဖြစ်သည်။ ထို مقبول ဟူသော အသုံးအနှုန်းသည် ဟာဖိဇ်အိဗ်နဟဂျ်ရ် رحمه الله ထံတွင် အခြားထောက်ခံဆင့်ပြန်သူရှိမှသာ လက်ခံခြင်းခံရသူဖြစ်ပြီး အခြား သောထောက်ခံဆင့်ပြန်သူ မရှိဘဲ သူတစ်ဦးတည်းကသာ ဆင့်ပြန်ထားပါက “ဍအီးဖ်”အား နည်းသောဆင့်ပြန်ချက်ဟုသာ ဆိုလိုကြောင်း အသ်သက္ကရီးဗ် ကျမ်း၏ နိဒါန်း၌ ရေးသားထားသည်ကို တွေ့ရပေမည်။

قال الحافظ في ترجمة عبد الرحمن هذا في التقريب (ص348) : "مقبول" يعني عند المتابعة ، وإلا فهو لين الحديث، كما نص عليه في المقدمة.

အချို့က အထက်ဆင့်ဆိုချက်ပါ ဆင့်ဆိုသူတစ်ဦးဖြစ်သည့် အဗ်ဒုရ်ရဟ်မာန်းဆိုသူကို ဟဒီးစ်ပညာရှင်တစ်ဦးဖြစ်သူ အိဗ်နိ ဟိဗ်ဗာန်းက ယုံကြည်စိတ်ချရသူဟူ၍ မှတ်ချက်ပေးထားခြင်း အပေါ်အခြေခံကာ ယင်းဆင့်ဆိုချက်သည် မှန်ကန်သည်ဟုဆို ကြ၏။ ဤသည်လည်း လုံးဝမှားယွင်းသော ယူဆချက်ဖြစ်ပြီး ဟဒီးစ်ပညာရပ်နှင့် အလွန်အလှမ်းဝေးသူများ၏ ယူဆချက် သက်သက်သာ ဖြစ်ပါလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် ဟဒီးစ်ပညာရှင်ကြီး အိဗ်နိဟိဗ်ဗာန်း رحمه الله သည် ရာဝီဆင့်ဆိုသူ များအား ယုံကြည်စိတ်ချရသူဟူ၍ သတ်မှတ်ရန် စည်းကမ်း ချက်များ ချမှတ်ရာ၌ အလွန်ပင် ပျော့ပျောင်းသူဟူ၍ ကျော်ကြား သူဖြစ်သည်။ သူက မိမိ၏ الثقات ကျမ်း၌ မည်သူမည်ဝါပင်မသိ ရသောရာဝီများနှင့် ဖခင်၏အမည်ကိုပင် မသိရသောရာဝီ ဆင့် ဆိုသူများကိုလည်း “ဆိက္ကဟ်” ယုံကြည်စိတ်ချရသူဟူ၍ ထည့် သွင်းဖော်ပြထားသည်ကို တွေ့ရမည်ဖြစ်သည်။ ထို့အတူ

အထက်ပါစွဟာဗဟ်ကြီး အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﵁ ၏မှာတမ်း ချက်လာ ဟဒီးစ်သည် တမန်တော်မြတ်ကြီး ﷺ ၏ တိုက်ရိုက် မိန့်ကြားချက်ဖြင့်ကြားသိရသည်ဟူ၍လည်း ဖော်ပြထားသည် ကိုတွေ့ရပြန်သည်။ ယင်းဆင့်ဆိုချက်သည်လည်း ဟဒီးစ်ပါဂူ များထံတွင် ပထမဆင့်ဆိုချက်ထက် ပို၍ပင် အားနည်းကြောင်း၊ မှန်ကန်မှုမရှိကြောင်း မိမိတို့၏ ကျမ်းအသီးသီး၌ မှတ်ချက်ပြု ထားကြသည်။ အောက်တွင် ပညာရှင်များလေ့လာနိုင်ရန် အရ ဗီဘာသာဖြင့်ရေးသားချက် အပြည့်အစုံကို တင်ပြလိုက်ပါသည်။

وروى الطبراني أيضا في "المعجم الكبير" (13613) والبيهقي في "الشعب" (8854) من طريق يَحْيَى بْن عَبْدِ اللهِ الْبَابْلُتِّيّ، ثنا أَيُّوبُ بْنُ نَهِيكٍ، قَالَ: سَمِعْتُ عَطَاءَ بْنَ أَبِي رَبَاحٍ، يَقُولُ: سَمِعْتُ ابْنَ عُمَرَ، يَقُولُ: سَمِعْتُ النَّبِيَّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ يَقُولُ: (إِذَا مَاتَ أَحَدُكُمْ فَلَا تَحْبِسُوهُ، وَأَسْرِعُوا بِهِ إِلَى قَبْرِهِ، وَلْيُقْرَأْ عِنْدَ رَأْسِهِ بِفَاتِحَةِ الْكِتَابِ، وَعِنْدَ رِجْلَيْهِ بِخَاتِمَةِ الْبَقَرَةِ فِي قَبْرِهِ). وهذا إسناد واه ، أيوب بن نهيك ، ضعفه أبو حاتم وغيره، وقال الأزدي: متروك. "ميزان الاعتدال" (1/ 294)

والبابلتي: قال ابن أبي حاتم: يأتي عن الثقات بأشياء

معضلة ، يهم فيها ، فهو ساقط الاحتجاج فيما انفرد به ، وقال ابن عدي : أثر الضعف على حديثه بيِّن. "تهذيب التهذيب" (11/ 211) .

وقال الألباني في الضعيفة (4140): "حديث ضعيف جدا" . وينظر للاستزادة : "أحكام الجنائز" (1/ 192

ကဗရ်သချိုင်း၌ ကုရ်အာန်ဖတ်ခြင်းသည် ဗိဒ်အသ် ဖြစ်ကြောင်း အိမာမ်ကြီးများ၏ အဆိုအမိန့်များကိုလည်း ထည့်သွင်းဖော်ပြပေးသွားပါမည်။ အိမာမ်အဗူဟာနီဖဟ် ﵀ ထံတွင် ကဗရ်သချိုင်း၌ ကုရ်အာန်ဖတ်ခြင်းသည် မက္ကရူဟ်သဟ်ရီမီ ဖြစ်သည်။ မွလ္လာအလီကာရီ ﵀ က အိမာမ်အဗူဟာနီဖဟ် ﵀ ရေးခဲ့သည်ဟုဆိုသော ဖိက်ဟုလ်အက္ကဗရ်ကျမ်း၌ “အိမာမ် အဗူဟာနီဖဟ် ﵀ ထံတွင် ကဗရ်သချိုင်း၌ ကုရ်အာန်ဖတ်ခြင်း သည် မက္ကရူဟ်ဖြစ်ပြီး အိမာမ်မာလိက် ﵀ နှင့် အိမာမ်အဟ်မဒ် ﵀ တို့ထံတွင် ဗိဒ်အသ်ဖြစ်ကြောင်း အောက်ပါအတိုင်းရေးသား ထားသည်။

قال في كتاب الفقه الأكبر للإمام ملا علي القاري الحنفي (ص 115) : "ثم القراءة عند القبور مكروهة عند أبى حنيفة ومالك وأحمد رحمهم الله في رواية. لأنه محدث لم ترد به السنة" وكذلك قال شارح الإحياء (ج 3 ص 285)

အိမာမ်အဗူဟနီဖဟ် ﷺ ၏ တပည့်ဖြစ်သူ အိမာမ် မုဟမ္မဒ်ဗင်န်ဟစာန် ﷺ က အထက်ပါ အိဗ်နိအုမရ် ﷺ ၏မှာ ကြားချက်ဖြစ်သော ဒွအီးဖ်ဟဒီးစ်ကို ကိုးကားပြီး ကဗရ်သင်္ချိုင်း၌ ကုရ်အာန်ဖတ်ခွင့်ရှိသည်ဟု အဆိုပြုထားသည်မှာ မှန်ပါသည်။ သို့ပေသြားလည်း ဤမတ်စ်အလဟ်၌ အိမာမ်အဗူဟနီဖဟ် ﷺ မိန့်ဆိုချက်အရကြည့်လျှင် အနည်းဆုံးအဆင့် မက္ကရူဟ် ဖြစ်ပေမည်။ အိမာမ်အဟ်မဒ် ﷺ နှင့် အိမာမ်မာလိက် ﷺ တို့၏ အဆိုအရကြည့်လျှင် အထောက်အထားမရှိသည့်အတွက် ဗိဒ် အသ်ဖြစ်ပေမည်။

قال أبو داود في "مسائله" (ص224) : " سمعت أحمد، سئل عن القراءة عند القبر؟ فقال: لا ".

"အိမာမ်အဟ်မဒ် ﷺ ကို ကဗရ်မှာကုရ်အာန်ဖတ်ပေးသည့် ကိစ္စနှင့်ပတ်သက်၍ မေးမြန်းရာ၌ အိမာမ်ကြီးက "ဖတ်ခွင့်မရှိ"

ဟု ဖြေကြားခဲ့ပေသည်။”[၄၃]

အလ္လာမဟ်အိဗ်နိုသိုင်မိယဟ် ﷺကလည်း ရှေးပညာရှင် အများစုထံတွင် ကဗရ်သင်္ချိုင်း၌ ကုရ်အာန်ဖတ်ခြင်းသည် မက္ကရူဟ် နှစ်မြို့ဖွယ်မဟုတ်သည့်လုပ်ရပ်ဖြစ်ကြောင်း အောက်ပါအတိုင်းရေးသားထားပေသည်။

وقال شيخ الإسلام ابن تيمية رحمه الله : " نَقَلَ الْجَمَاعَةُ عَنْ أَحْمَدَ كَرَاهَةَ الْقُرْآنِ عَلَى الْقُبُورِ. وَهُوَ قَوْلُ جُمْهُورِ السَّلَفِ وَعَلَيْهَا قُدَمَاءُ أَصْحَابِهِ " انتهى من "الفتاوى الكبرى" (5 /362)

ကွယ်လွန်သေဆုံးသူတို့အား ကုသိုလ်စဝါးဗ်ပေးပို့ရန်အတွက် ယင်းတို့၏ ကဗရ်သင်္ချိုင်းတွင် ကုရ်အာန်ဖတ်ခြင်းသည် အမှန်တကယ် အသင့်မြတ်ဆုံးလုပ်ရပ်ဖြစ်ခဲ့ပါမူ အီမာ့န်ရှင်အွမ္မသ်ထုအပေါ် အကြင်နာသံယောဇဉ်ကြီးမားလှသော နဗီတမန်တော် မြတ် ﷺက“အသင်တို့၏ နေအိမ်များတွင် ကုရ်အာန်ဖတ်ကြကုန်၊ စွလားသ်ဝတ်ပြုကြကုန်။ အသင်တို့၏ နေအိမ်များကို ကဗရ်သင်္ချိုင်း မလုပ်ကြလေနှင့်”ဟု မိန့်ကြားတော်မူခဲ့မည် မဟုတ်ပေ။ ကဗရ်သင်္ချိုင်းများသည် ကုရ်အာန်ကျမ်းမြတ်သိလာဝသ်လုပ်ရန်နှင့် စွလားသ်ဝတ်ပြုရန်နေရာ မဟုတ်

---

၄၃ - အိမာမ်အဗူဒါဝူးဒ်၏ မစာအိလ်ကျမ်း၊ စာ - ၂၂၄။

ကြောင်း ပိုင်းခြားသိမှတ်ရန် တမန်တော်မြတ် ﷺ က ယခုလို အထူးပြုမိန့်ကြားထားတော်မူခြင်းဖြစ်ပေသည်။

ထိုအကြောင်းကြောင့်ပင် တမန်တော်မြတ် ﷺ ၏ဘဝ သက်တမ်းတစ်လျှောက်လုံးတွင် တမန်တော်မြတ်ကြီးသည် ကဗရ်သင်္ချိုင်းများတွင် ကုရ်အာန်ကျမ်းမြတ် သို့မဟုတ် ကုရ်အာန်ကျမ်းမြတ်၏စူရဟ်အချို့ကိုဖတ်ခဲ့ကြောင်း မှန်ကန်ခိုင်လုံသည့် အထောက်အထားတစ်ခုတစ်လေမျှပင် မတွေ့ရခြင်း ဖြစ်သည်။ ကဗရ်သင်္ချိုင်းများတွင် ဇိယာရသ်ပြုခြင်းနှင့်ပတ်သက်၍ တမန်တော်မြတ် ﷺ ၏ ခလေ့တော်မှာ ကွယ်လွန်သူတို့အတွက် ဆုမွန်ဒုအာတောင်းပေးသည်။ ကဗရ်ရှင်တို့အား စလာမ်မေတ္တာ ပို့သပေးသည်။ တရားသံဝေဂယူတော်မူသည်။ သို့သော် ဖာသိဟဟ်ဖတ်ပေးကြောင်း၊ ကုလ်ဖတ်ပေးကြောင်း စူရဟ်ယာစီန်း ဖတ်ပေးကြောင်း လုံးဝ မတွေ့ရှိရပေ။ ကဗရ်ဇိယာရသ်ပြုရာတွင် တမန်တော်မြတ်ကြီး ﷺ ၏ တောင်းဆုဒုအာများစွာရှိပါသည်။ ယင်းအနက် ဒုအာတစ်ခုကို တင်ပြရလျှင်–

(السلامُ على أهلِ الدِّيارِ من المؤمنينَ والمسلمينَ، ويَرحَمُ اللهُ المستقدِمينَ منّا والمستأخرينَ، وإنا إن شاءَ اللهُ بكم للاحقُونَ)

"အို– ကဗရ်သင်္ချိုင်းများတွင်ရှိကြကုန်သော မုအ်မင်န်၊ မွတ်စ်လင်မ်အပေါင်းတို့၊ အသင်တို့အပေါ် အလ္လာဟ်အရှင်မြတ်ထံမှ ငြိမ်းချမ်းသာယာမှုအပေါင်း သက်ရောက်ပါစေ။ အလ္လာဟ်အရှင်မြတ်အလိုတော်ရှိပါမူ ကျွန်ုပ်တို့သည်လည်း အသင်တို့နှင့် လာရောက်တွေ့ဆုံသူများဖြစ်ကြရပါမည်။ ကျွန်ုပ်တို့အတွက်နှင့် အသင်တို့အတွက် ကောင်းချီးမင်္ဂလာများနှင့် ဂျဟန္နမ်ငရဲဘုံမှ လွတ်မြောက်ရန်အလ္လာဟ်အရှင်မြတ်ထံ တောင်းခံပန်ကြားပါ၏။"[၄၄]

## ကုရ်အာန်ခသမ်ဖတ်ခြင်း

ကျွန်ုပ်တို့ မြန်မာနိုင်ငံတွင် အီစွာလေဆဝါးမ်အမည်ဖြင့် လုပ်ကြံထားသော ဓလေ့ထုံးတမ်းများတွင် ကုရ်အာန်ခသမ်ဖတ်ခြင်းသည်လည်း တစ်ခုအပါအဝင် ဖြစ်သည်။ ဤဓလေ့သည် အိမ်တိုင်းအိမ်တိုင်းအား ခြစားနေလျက်ရှိသည်။ အိမ်အနည်းငယ်သာ ဤဗိဒ်အသ်မှ လွတ်ကင်းသည်။ ဤဗိဒ်အသ်နည်းလမ်းမှာ မဒ်ရဆာကျောင်းတစ်ကျောင်းမှ ကျောင်းသားများ

၄၄ – မွတ်စ်လင်မ်ကျမ်း၊ ဟဒီးစ်အမှတ်(၉၇၄)

ကိုခေါ်လာပြီး ကုရ်အာန်ဖတ်ခိုင်းကြသည်။ ပြီးလျှင် အစား ကောင်းအသောက်ကောင်းများဖြင့် ကျွေးမွေးကြသည်။ ညှော်ခံ ကျွေးမွေးပြီးလျှင် လက်ဆောင်များ၊ မုန့်ဖိုးများလည်း ကောင်း ကောင်းပေးကြသည်။ ထိုအခမ်းအနားတွင်ဖတ်ရွတ်သောကုရ် အာန်၏အကျိုးကို သေသူထံပို့သပေးကြသည်။

နောက်ထပ်နည်းလမ်းတစ်ခု ရှိသေးသည်။ ရပ်ကွက် အတွင်းမှ အမျိုးသမီးအဖွဲ့ကိုခေါ်ပြီး ကုရ်အာန်ခသမ်ဖတ် ခိုင်းသည်။ ပြီးလျှင် ထိုအကျိုးကုသိုလ်ကို သေသူများထံ ပို့သ ပေးကြသည်။ အီစွာလေ့ဆဝါးဗ်အမည်ဖြင့် ဤနည်းလမ်းများ နှင့် ကုရ်အာန်ဖတ်ခြင်းသည် ရှရီအသ်တရားတော်နှင့် ဖြောင့် ဖြောင့်ကြီး ဆန့်ကျင်နေပေသည်။ ဂျရီးရ်ဗင်န် အဗ်ဒိလ္လာဟ် ﵁ က ဆင့်ပြန်သည်။

كُنَّا نَعُدُّ الاِجْتِمَاعَ إِلى أَهْلِ المَيِّتِ وَصَنِيْعَةَ الطَّعَامِ بَعْدَ دَفْنِهِ مِنَ النِّيَاحَةِ

"ကွယ်လွန်သေဆုံးသွားသူကို မြေမြှုပ်ပြီးနောက် သေသူ၏ အိမ်သူအိမ်သားများထံ စုရုံးကြကာ အစားအသောက်စီမံခြင်း ကို ငိုချင်းချခြင်းဟူ၍သာ ကျွန်ုပ်တို့ သတ်မှတ်ကြသည်။"[၇၅]

၇၅ - မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ တွဲ - ၂၊ စာ - ၂၀၄။

အိမာမ်နဝဝီ ﷺက မိန့်ဆိုသည်။

أَنَّ قِرَاءَةَ الْقُرْآن لَايَصِلُهُ ثَوَابُهَا

"ကုရ်အာန်ဖတ်ရွတ်ခြင်း၏ အကျိုးကုသိုလ်သည် သေသူထံသို့ ရောက်မည်မဟုတ်ပေ။"[၄၆]

ဟာဖိဇ်ဇ်စွလာဟုဒ်ဒီးန် ယူစွဖ်က ကုရ်အာန်ခသမ်ဖတ်ခြင်း၏ ဆိုးကျိုးများကို ရေးသားတင်ပြထားသည်။ "ဤဓလေ့ထုံးတမ်းသည် မွတ်စ်လင်မ်များအား အကျင့်အမူများ ပျက်ပြားစေသည့်၊ ကျင့်ကြံအားထုတ်မှု ပျက်ပြားစေသည့် အကြီးမားဆုံးသောအကြောင်းခံတစ်ခု ဖြစ်သည်။ အကယ်၍ လူတစ်ယောက်က ဤသို့ တွေးမည်။ "ကျွန်ုပ်သေသွားလျှင် ကျန်ရစ်သူများက ကုရ်အာန်ကျမ်းမြတ်ဖတ်ရွတ်ပြီး ကျွန်ုပ်ထံ အကျိုးကုသိုလ်ပို့ပေးလိမ့်မည်။ ကျွန်ုပ်၏ လျော့နည်းမှုများအတွက် ဖြည့်စွက်ပြီးသား ဖြစ်မည်။ ကျွန်ုပ် လွတ်မြောက်မှုရရန် အကြောင်းခံလည်းဖြစ်မည်"။ ဤသို့ယုံကြည်နေပါလျှင် ထိုသို့သောသူသည် အသက်ရှိနေစဉ် အစ္စလာမ်၏အမိန့်ပညတ်ချက်များ၊ ဖရည်တာဝန်များကို လိုက်နာရန် အရေးကြီးသည်ဟုပင် အောက်မေ့မည်မဟုတ်တော့ပေ။ ဘဝတလျှောက်လုံးကို ကုရ်အာန်၏

---

၄၆- فَتَاوَى الدين الخالص ကျမ်း၊ တွဲ-၇၊ စာ ၄၄၃။

အမိန့်များနှင့် ဆန့်ကျင့်ဘက် နေထိုင်သွားလိမ့်မည်။ စွလားသ်၊ စွော်မ်ဥပုသ်ကို အလေးထားတော့မည်မဟုတ်၊ ဟလာလ်နှင့် ဟရာမ် ခွဲခြားတော့မည်မဟုတ်။[၄၇]

နောက်ထပ်လည်း ဆိုးကျိုးအမြောက်အများကို တင်ပြထားပါသေးသည်။ ဆက်လေ့လာပါက အလွန်အကျိုးရှိသည်။

လက်ရှိဖြစ်နေသော ကုရ်အာန်ခသမ်ဖတ်ခြင်းဓလေ့နှင့်စပ်လျဉ်းပြီး ဆော်ဒီနိုင်ငံ၏ ဓမ္မသတ်ဌာန اللجنة الدائمة للبحوث العلمية والإفتاء မှ ဖသ်ဝါတစ်ခု ထုတ်ပြန်ခဲ့သည်။ ထိုဖသ်ဝါတွင် ဤဓလေ့သည် ရှရီအသ်နှင့်ဆန့်ကျင်သော၊ မပြုပိုင်သောကိစ္စရပ်ဟု သတ်မှတ်ထားသည်။ ထို့ပြင် တမန်တော်မြတ်၏ ဟဒီးဆ်တော်တစ်ရပ်လာရှိသည်။

مَنْ قَرَأَ الْقُرْآنَ فَلْيَسْئَلِ اللهَ بِهِ فَإِنَّه سَيَجِيْءُ أَقْوَامٌ يَقْرَءُوْنَ الْقُرْآنَ يَسْأَلُوْنَ النَّاسَ

"မည်သူမဆို ကုရ်အာန်ဖတ်ရွတ်ပါက ထိုအစားကို အလ္လာဟ်အရှင်မြတ်ထံ တောင်းခံပါ။ များမကြာမီ လူတချို့ ရောက်လာလိမ့်မည်။ သူတို့သည် ကုရ်အာန်ဖတ်ပြီး လူတို့ထံမှ တောင်းခံကြလိမ့်မည်။"

---

၄၇- جنازے کے احکام ومسائل

ဤဟဒီးဆ်တော်အရ ကုရ်အာန်ခသမ်ဖတ်ပြီးနောက် ကျောင်းသားများနှင့် ဆရာများကိုပေးသော လက်ဆောင်များ ငွေကြေးများသည် ဟရာမ်ဟု ဖော်ပြထားသည်။[၄၈]

## မီးအိမ်ထွန်းခြင်း

ကဗရ်သင်္ချိုင်းပေါ်တွင် မီးအိမ်ထွန်းခြင်းသည်လည်း အဓိပ္ပာယ်မရှိသောဓလေ့တစ်ခုဖြစ်သည်။ အသိဉာဏ်မဲ့သူများ၏ ထွင်လုံးဖြစ်သည်။ တရားတော်အရကြည့်လျှင်လည်း မှား ယွင်းသလို ဦးနှောက်အသိဉာဏ်နှင့် စဉ်းစားဆင်ခြင်ကြည့်လျှင် လည်း မိုက်မဲသောဓလေ့တစ်ခုသာ ဖြစ်သည်။ သေသူအဖို့ ဘာအကျိုးကျေးဇူးမှ မရှိပေ။ ဤလုပ်ရပ်သည် လူတို့ကြားတွင် အိဗာဒသ်တစ်ခုဟုပင် မှတ်ယူနေကြသည်။ ထို့ကြောင့်ပင် အိုလမာသာသနာ့ပညာရှင်များက ဤလုပ်ရပ်သည် မီးကိုး ကွယ်သူများနှင့် ဆင်တူသောကြောင့် ဗိဒ်အသ်၊ မပြုပိုင်ဟု မိန့် ဆိုကြသည်။ အဗူဟိုရိုင်ရဟ် ﷺက ပြောပြသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။

---

၄၈- فتاوى اللجنة الدائمة ကျမ်း၊၉-၄၀။

لَا تُتْبَعُ الْجَنَازَةُ بِصَوْتٍ وَلَا نَارٍ

ဂျနာဇဟ်လိုက်ပို့သည့်အခါ အသံကျယ်လောင်စွာ ပြောဆိုခြင်းမပြုရ၊ မီးကို ယူဆောင်မသွားရ။[၄၉]

ထို့ကြောင့် စွဟာဗဟ်ကြီးများသည် မိမိတို့၏ ဂျနာဇဟ်ကို သယ်ဆောင်သောအခါ မီးအိမ်များကို မယူဆောင်လာကြရန် အိမ်သားများအား ဝစီယသ်မှာတမ်းပြုခဲ့ကြသည်။[၅၀]

ဤလုပ်ရပ်သည် ဗိဒ်အသ်ဖြစ်ခြင်းနှင့်စပ်လျဉ်းပြီး အလ္လာမဟ်အလ်ဗာနီ ﷺ က ဤသို့ ရေးသားတင်ပြသည်။ " ကဗရ်ပေါ်တွင် မီးအိမ်ထွန်းကြသူများသည် အကျိုးကုသိုလ်ရရန် ရည်ရွယ်ချက်ဖြင့် ထွန်းညှိလေ့ရှိကြသည်။ ကဗရ်သို့လာရောက်သူများ အဆင်ပြေစေရန် ရည်ရွယ်ချက်ဖြင့် ထွန်းကြခြင်းမဟုတ်ပေ။ ထို့ကြောင့်ပင် နေ့ခင်းကြောင်တောင်လည်း မီးအိမ်ထွန်းထားကြခြင်းဖြစ်သည်။ လူတို့၏ ဤယုံကြည်ချက်ကြောင့်ပင် ဤလုပ်ရပ်သည် ဗိဒ်အသ်ဖြစ်ရခြင်း ဖြစ်သည်။[၅၁]

---

၄၉ – အဗူဒါဝူဒ်ကျမ်း၊ နံပါတ် ၃၁၇၁။

၅၀ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ တွဲ ၂၊ စာ ၄၇၄။

၅၁ – အဟ်ကာမုလ်ဂျနာအိဇ်ကျမ်း၊ စာမျက်နှာ ၂၉၄။

# ကုလ်ဖတ်ခြင်း၊ သုံးရက်၊ ခုနှစ်ရက်၊ ရက်လေးဆယ် စသည့် ရက်လည်ပွဲလုပ်ခြင်း

အီစွာလေ့ဆဝါးဗ်ရည်ရွယ်ချက်ဖြင့် ပြုလုပ်ကြသော ဓလေ့ထုံးတမ်းများအနက် တချို့ကို လူတို့က ဖရည့်မလုပ်မ နေရ တာဝန်အလား မှတ်ယူထားကြသည်။ အဘယ်မျှပင် ဆင်းရဲနေပါစေ ထိုဓလေ့များကို မဖြစ်မနေ အကောင်အထည် ဖော်ရမည်ဟု မှတ်ယူကြသည်။ ငွေမရှိလျှင်လည်း ချေးငှား၍ လုပ်ကြသည်။ ထိုသို့လုပ်မှသာ ကွယ်လွန်သူအတွက် လွတ်ငြိမ်း ချမ်းသာခွင့်ရရှိမည်ဟု ထင်မှတ်ကြသည်။ ကုလ်ဖတ်ခြင်း၊ ၃ရက်လည်၊ ၇ရက်လည်၊ ၁၀ရက်လည်၊ ၄၀ရက်လည် စသည့် ဓလေ့များသည် လူတို့က မိမိတိုကိုယ်တိုင် မလုပ်မနေရတာဝန် အဖြစ်သတ်မှတ်ထားသော ကိစ္စများသာဖြစ်ပြီး တရားတော် တွင် ဘာမျှအခြေအမြစ်မရှိပေ။

ဆော်ဒီနိုင်ငံ ဖသ်ဝါဌာနချုပ်မှ ရက်၄၀ပြည့် ရက် လည်လုပ်ခြင်းနှင့်ပတ်သက်ပြီး မေးခွန်းတစ်ခုကို အဖြေပေး ထားသည်။ “ရက် ၄၀အတွက် ပွဲလုပ်ခြင်းသည် ဖိရ်အောင်တို့ ၏ ဓလေ့ထုံးစံတစ်ခုဖြစ်သည်။ အစ္စလာမ်သာသနာ မတိုင်မီ အလျှင်က ဖိရ်အောင်တို့သည် ဤရက်လေးဆယ်ပွဲကို ပြုလုပ်

လေ့ရှိကြသည်။ သူတို့မှတဆင့် အခြားသောလူမျိုးများထံ ဤဓလေ့ပြန့်နှံ့လာခဲ့သည်။ ထို့ကြောင့် ဤဓလေ့သည် အလွန်ကြီးမားသောဗိဒ်အသ်တစ်ခု ဖြစ်သည်။ အစ္စလာမ်နှင့် လားလားမျှ မသက်ဆိုင်ပေ။ တမန်တော်မြတ် ﷺ ၏ ဩဝါဒတော်ကလည်း ဤလုပ်ရပ်ကို ပယ်ဖျက်ထားပေသည်။

مَنْ أَحْدَثَ فِيْ أَمْرِنَا هذا مَا لَيْسَ فِيْهِ فَهُوَ رَدٌّ

"မည်သူမဆို ငါတို့၏သာသနာတွင် မရှိသောအရာတစ်ခုကို အသစ်ထွင်ခဲ့မည်ဆိုလျှင် ထိုအရာသည် စွန့်ပယ်ခြင်းခံရမည်။"[၅၂]

ရှိုင်ခ်အသွာအုလ္လာဟ် စာဂျိဒ်က အိမ်နမာဂျဟ်ကျမ်းဟဒီးဆ်တော်များ၏ အကျိုးကျေးဇူးများကို တင်ပြရင်း ဤသို့ရေးသားသည်။ "ကွယ်လွန်သေဆုံးသွားသူအတွက် ဒုအာတောင်းခံရမည့်သီးသန့်အချိန်၊ သို့မဟုတ် သီးသန့်နည်းလမ်းသတ်မှတ်ထားသည်မရှိပါ။ ကုလ်၊ သုံးရက်၊ ၁၀ရက်၊ ရက်လေးဆယ်၊ နှစ်ပတ်လည် စသည့်ပွဲများသည် ဟိန္ဒူများ၏ ဓလေ့ကို မွတ်စ်လင်မ်တို့က လိုက်လုပ်ခြင်းသာဖြစ်သည်။ ရှရီအသ်တွင်ဘာ အထောက်အထားမျှ မရှိပါ။ ထိုလုပ်ရပ်များကို လုပ်ဆောင်

---

၅၂ - ဗုခါရီကျမ်း၊ နံပါတ် ၂၆၉၇။

ပြီး အကျိုးကုသိုလ်ရမည်ဟုပင် မျှော်လင့်၍မရပါ။[၅၃]

## လွှမ်းဆွတ်အောက်မေ့ဖွယ်အခမ်းအနားများ၊ မွေးနေ့ပွဲများ

အီစွာလေ့ဆဝ်ဝါးဗ်အမည်ဖြင့် လွှမ်းဆွတ်အောက်မေ့ဖွယ်အခမ်းအနားများ၊ မွေးနေ့ပွဲများစသည့်ပွဲများ ပြုလုပ်ကျင်းပခြင်းသည်လည်း ဗိဒ်အသ်လုပ်ရပ်များသာ ဖြစ်သည်။ ဟာဖိဇ်စွလာဟုဒ်ဒီးန်ယူစွဖ်က ထိုပွဲလမ်းသဘင်များနှင့်စပ်လျဉ်း၍ ဤသို့ ရေးသားတင်ပြသည်။ "အီစွာလေဆဝ်ဝါးဗ်၏ ပုံစံတစ်ခုမှာ ရှီအာတို့၏ ဓလေ့ဖြစ်သည်။ ရှီအာတို့သည် ထိုဓလေ့ကို အလွန်အလေးထားကြသည်။ ယင်းမှာ လွှမ်းဆွတ်အောက်မေ့ဖွယ် အခမ်းအနားဖြစ်သည်။ သေသူထံ အီစွာလေ့ဆဝ်ဝါးဗ်ပို့သရန်အတွက် တရားဟောဆရာတစ်ဦးကို ခေါ်ယူပြီး အဲဟ်လေ့ဗိုင်သ်တို့၏ ဒုက္ခခံခဲ့ရမှုများကိုတင်ပြခြင်း၊ အခြားစွဟာဗဟ်များ၏ အပုပ်ချခြင်းတို့ကို ဟောကြားစေသည်။ အခမ်းအနားတွင် တက်ရောက်သူများက ဤသို့လုပ်ခြင်းဖြင့် သေသူများ လွတ်ငြိမ်းချမ်းသာခွင့်ရသွားကြပြီဟု မှတ်ယူကြသည်။ သူတို့ကို

---

၅၃ – အိဗ်နုမာဂျဟ်ကျမ်း၊ တွဲ ၁၊ စာ ၂၇၉။

အားကျပြီး ဗရေလဝီခေါ် အဲဟ်လေ့စွန္နသ်အမည်ခံ ဗိဒ်အသ် ကြိုက်နှစ်သက်သူတို့ကလည်း အောက်မေ့ဖွယ်အခမ်းအနား များ၊ မွေးနေ့များ၊ ချီးမွမ်းခန်းဖွင့်ခြင်းများ ပြုလုပ်ကြသည်။ တချို့က ရက်လေးဆယ်ပွဲတွင် ထိုသို့ပြုလုပ်ကြသည်။ တချို့ က ရက်လေးဆယ်မတိုင်မီနှင့် ရက်လေးဆယ်ပြီးမှ ထိုသို့သော အောက်မေ့ဖွယ်အခမ်းအနားများ ပြုလုပ်ကြသည်။ ထိုအခမ်း အနားများလုပ်ခြင်းသည် သေသူထံ ကုသိုလ်ရောက်ဖို့ အလွန် ထိရောက်သောနည်းလမ်းဟု ဆိုကြသည်။ အမှန်မှာ ဤသည် လူတို့ထွင်ထားသောထွင်လုံးသာ ဖြစ်သည်။ ဗိဒ်အသ်ဖြစ်သည်။ ဟဒီးဆ်တော်တွင် တမန်တော်မြတ် ﷺ က အဆိုးယုတ်ဆုံး သောကိစ္စဟု မိန့်ကြားထားသည်။ ဗိဒ်အသ်ကြောင့် ကုသိုလ် မရသည့်အပြင် ငရဲပါရသည်ဆိုလျှင် ထိုလုပ်ရပ်ဖြင့် သေသူထံ မည်သို့ အကျိုးကုသိုလ်ရောက်ပါမည်နည်း။

ထို့ကြောင့် ရှီအာများလုပ်သကဲ့သို့ အောက်မေ့ဖွယ် အခမ်းအနားများ၊ မာသမ်အခမ်းအနားများကျင်းပခြင်း၊ ဗီဒ် အသ်လုပ်သူများနည်းတူ မွေးနေ့ပွဲများ၊ ကဗျာရွတ်ပွဲများလုပ် ခြင်းတို့သည် ဘာအကျိုးမျှမရှိပေ။ သေသူထံလည်း မည်သည့် အကျိုးမျှ ရောက်မည်မဟုတ်ပေ။

# အာရှူရာနေ့နှင့် ရှအ်ဗာန်လ ၁၅ရက်နေ့တို့တွင် ကဗရ်သင်္ချိုင်းသို့သွားခြင်း

အာရှူရာနေ့နှင့် ရှအ်ဗာန်လ ၁၅ရက်နေ့ညတို့တွင် လူအမြောက်အမြားသည် ကဗရ်သင်္ချိုင်းသို့ သွားကြသည်။ ထို ညဉ့်များတွင် သီးသန့်သွား၍ သေသူများအတွက် ဒုအာတောင်း ပေးကြသည်။ စွဒကဟ်အလှူဒါနများ ပြုလုပ်ကြသည်။ ကဗရ် သင်္ချိုင်းသို့သွားသောအခါ စားစရာများပါ ယူဆောင်သွားကြ သည်။ အီစွာလေဆဝါးဗ်အမည်ဖြင့် အစားအစာများကို ဝေငှ ပေးကြသည်။ တချို့က ကဗရ်ပေါ်တွင် ပန်းများ၊ ကျာဒရ်ခြုံ ထည်များတင်ကြသည်။ အလ္လာဟ်အရှင်မြတ်၏ နိအ်မသ်စည်း စိမ်များကို ကဗရ်များပေါ်တွင် ထိုသို့ အလဟဿ အချည်းနှီး စွန့်ပစ်ခြင်းသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို အဘယ်မျှ တန်ဖိုးမထားရာရောက်ပါသနည်း။ လူတို့အား အကျိုးဖြစ်ထွန်းစေသောအရာဖြင့်သာ အကျိုးကုသိုလ်ရနိုင်မည် ဖြစ်သည်။ ကဗရ်များတွင် အစားအသောက်များ စွန့်ပစ်ထား ခြင်းသည် ဖြုန်းတီးခြင်းသာဖြစ်သည်။ ထိုလုပ်ရပ်မှ အကျိုးကု သိုလ်မျှော်ကိုးခြင်းသည် အသိဉာဏ်မဲ့ခြင်းမှတစ်ပါး အခြားမရှိ ပေ။ ထိုလုပ်ရပ်များအားလုံးသည် တရားတော်တွင် မှန်ကန်

ခိုင်လုံသော ဘာအထောက်အထားမျှ မရှိပေ။ အာရှူရာနေ့နှင့် ရှအ်ဗာန်လမြတ် ၁၅ရက်နေ့ညဥ့်တို့တွင် ကဗရ်သို့ သွားခြင်းသည် ကောင်းမြတ်သောကိစ္စဟု ဘယ်မှာမှ အထောက်အထား မတွေ့ရပေ။

လူအမြောက်အမြားသည် သေသူ့ထံမှ အပြစ်ဒဏ် ပေါ့လျော့စေရန်ရည်ရွယ်ချက်ဖြင့် ကဗရ်ပေါ်တွင် သစ်ကိုင်းအစိုကို စိုက်ထူကြသည်။ ထိုသူတို့သည် ဗုခါရီကျမ်းနှင့် မွတ်စ်လင်မ်ကျမ်းတို့တွင်လာရှိသော တမန်တော်မြတ် ﷺ ၏ လုပ်ရပ်တစ်ခုကို အထောက်အထားပြုကြသည်။ ယင်းမှာ တမန်တော်မြတ် ﷺ သည် ကဗရ်သချိုင်းနှစ်ခုအတွင်းရှိ သေသူများ၏ အပြစ်ဒဏ်ပေါ့လျော့သွားစေရန်အတွက် သူတို့၏ ကဗရ်များပေါ်တွင် သစ်ကိုင်းအစိုကို စိုက်ထူပေးခဲ့သည်။

အထက်ပါဟဒီးဆ်တော်အရ အောက်ဖော်ပြပါ မှတ်ချက်များကို သတိချပ်သင့်ပေသည်။

(၁) ဟဒီးဆ်ပါရဂူများ၊ သုတေသီများအားလုံးက ဤလုပ်ရပ်သည် တမန်တော်မြတ် ﷺ နှင့်သာ သက်ဆိုင်သောလုပ်ရပ် ဖြစ်ကြောင်း အဆိုညီညွတ်ကြသည်။

(၂) ထိုအချိန်က တမန်တော်မြတ် ﷺ သည် စွဟာဗဟ်များအား ထိုသို့လုပ်ကြရန် တိုက်တွန်းခဲ့ခြင်းမရှိပေ။ ထို့အတူ စွဟာဗဟ်

များကလည်း ကိုယ်တော့်နောက်တွင် ထိုလုပ်ရပ်ကို လိုက်မလုပ်ခဲ့ကြပေ။

(၃) တမန်တော်မြတ် ﷺ သည် အခြားသောကဗရ်များတွင်လည်း ဤနည်းအတိုင်း မလုပ်ဆောင်ခဲ့ပေ။ ထိုကဗရ်သချိုင်းနှစ်ခုအတွက်သာ ထိုသို့လုပ်ဆောင်ပေးခဲ့သည်။

အထက်ဖော်ပြပါ မှတ်ချက်သုံးခုအရ တမန်တော်မြတ် ﷺ ၏ ဤလုပ်ရပ်ကို အထောက်အထားပြကာ ကဗရ်များပေါ်တွင် သစ်ကိုင်းအစို စိုက်ထူခြင်း၊ ထိုသို့ စိုက်ထူခြင်းဖြင့် သေသူများ အကျိုးခံစားရသည်ဟု တလွဲထင်နေစရာ အကြောင်းကို မရှိတော့ပေ။ ထို့ကြောင့် ယခုခေတ်တွင် ကဗရ်များတွင် လုပ်ဆောင်နေကြသော လုပ်ရပ်များသည် မည်သည့်ပုံစံနှင့်မျှ သေသူများအတွက် အကျိုးရှိမည်မဟုတ်ပေ။ တရားတော်အရလည်း ထိုလုပ်ရပ်များသည် မပြုပိုင်၊ ဗိဒ်အသ်ဖြစ်သည်။ အကြောင်းမှာ တရားတော်တွင် မှန်ကန်ခိုင်လုံသည့် ဘာအထောက်အထားမျှ မရှိသောကြောင့်ပင်။

## သေသူအတွက် ဖရသွ်စွလားသ်များ ကဇ္ဇာဖြည့်ပေးခြင်း

ကွယ်လွန်သူတစ်ဦး အကြောင်းကြောင်းကြောင့် လက်လွှတ်ခဲ့သောဖရသွ်စွလားသ်များကို ကဇ္ဇာဖြည့်ပေးခြင်း သည်လည်း မပြုပိုင်ပေ။ အကြောင်းမှာ စွလားသ်ငါးကြိမ်သည် အရွယ်ရောက်ပြီးဖြစ်သည့် မွတ်စ်လင်မ်အမျိုးသား၊ အမျိုးသမီးတိုင်း အပေါ်တွင် သတ်မှတ်ထားသောစည်းမျဉ်းများနှင့်အညီ သတ်မှတ်ထားသောအချိန်၌ မဖြစ်မနေ ဝတ်ပြုရန်ဖရသွ်တာဝန်ရှိပေသည်။ ကုရ်အာန်ကျမ်းတော်မြတ်တွင် အလ္လာဟ်အရှင်မြတ်က ဤသို့ မိန့်ကြားထားတော်မူသည်။

إِنَّ الصَّلَوٰةَ كَانَتْ عَلَى الْمُؤْمِنِينَ كِتَٰبًا مَّوْقُوتًا ﴿١٠٣﴾

"အမှန်စင်စစ် စွလာသ်ဝတ်ပြုမှုသည် အီမာန်ယုံကြည်သူများအပေါ်တွင် အချိန်ကာလပိုင်းခြားပြီး အတည်သတ်မှတ်ပြဋ္ဌာန်းထားသော ဖရသွ်တာဝန်တစ်ရပ်ဖြစ်သည်။"[၅၄]

အချိန်ပိုင်းခြား၍ သတ်မှတ်ထားသောအိဗာဒသ်တစ်ခုဖြစ်သည့်စွလားသ်သည် အချိန်မဝင်မီဝတ်ပြု၍မရသလို အချိန်ကုန်ဆုံးပြီးနောက်လည်း အကြောင်းမဲ့ စွန့်လွှတ်ပြီးနောက် ဝတ်ပြု၍ မရပါ။ ထို့ပြင် တမန်တော်မြတ်ကြီး ﷺ နှင့် စွဟာဗဟ်သာ

၅၄ - ကုရ်အာန် ၄း ၁၀၃။

ဝကကြီးများထံမှ ထိုသို စွလားသ်စွန့်လွှတ်ခဲ့သည့်သေသူအတွက် ကဖ္ဖာပြန်ပေးရန် သို့မဟုတ် ဖိဒ်ယသ် လျော်ကြေးပေးရန်ဟူ၍ ဆင့်ဆိုချက်တစ်စုံတစ်ရာ လာရှိထားခြင်းမရှိပါ။ တမန်တော်မြတ် ﷺက “မေ့၍သော်လည်းကောင်း၊ အိပ်ပျော်သွားခြင်း ကြောင့်သော်လည်းကောင်း စွလားသ်ကို လက်လွှတ်လိုက်ရပါက သတိပြန်ရသည်နှင့် သို့မဟုတ် အိပ်ရာမှ နိုးလာသည်နှင့် ချက်ချင်း ယင်းစွလားသ်ကို ပြန်လည်ဝတ်ပြု ခြင်းသည်သာ စွလားသ်၏ ကဖ္ဖာရဟ်ဖြစ်သည်”ဟု မိန့်ကြားထားသည်ကို မွတ်စ်လင်မ်ကျမ်းလာဟဒီးစ်များတွင် အောက်ပါ အတိုင်းတွေ့ရပေသည်။

أن رسول الله صلى الله عليه وسلم قال: ”من نسي صلاة فليصلها إذا ذكرها لا كفارة لها إلا ذلك”، وفي رواية عنه أيضا قال: قال نبي الله صلى الله عليه وسلم: ”من نسي صلاة أو نام عنها فكفارتها أن يصليها إذا ذكرها“ رواهما مسلم

အထက်ပါဟဒီးစ်များအရ စွလားသ်ကို အကြောင်းမဲ့ စွန့်လွှတ်၍မရကြောင်းနှင့် မေ့လျော့၍သော်လည်းကောင်း၊ အိပ်ပျော်သွား၍သော်လည်းကောင်း လွှတ်ခဲ့မိပါက သတိပြန်ရသည့်အခါ ချက်ချင်းဝတ်ပြုခြင်းသည်သာ လွတ်သွားသော

စွလားသ်၏ ကဖ္ဖာရတ်ဖြစ်သည်ဟူ၍ ပါရှိသည်။ ပျင်းရိ၍ တမင်တကာ စွလားသ်စွန့်လွှတ်သူအဖို့ ကဖ္ဖာပြန်ပေးရုံဖြင့် သို့မဟုတ် ဂျုံအလေးအချိန်ဖြင့် တွက်ချက်၍ ဖိဒ်ယဟ်ပေးရုံဖြင့် တာဝန်ကျေသွားသည်ဟု မည်သည့် ဟဒီးစ်တွင်မျှ မတွေ့ရပေ။

ဟဒီးစ်ပါရဂူကြီး ဟာဖိဇ်အိဗ်နိဟိဗ်ဗာန်း ﵀က မွတ်စ်လင်မ်ကျမ်းလာ အထက်ပါဟဒီးစ်ကိုတင်ပြပြီးနောက် "ယင်းဟဒီးစ်အရ သေဆုံးသူသည် စွလားသ်များ လွှတ်ခဲ့ပြီး ယင်းစွလားသ်များကိုလည်း ပြန်လည်ဝတ်ပြုရန် မတတ်စွမ်းနိုင်ခဲ့ပါက တစ်ပါးသူများမှ ထိုသူ့ကိုယ်စား ယင်းစွလားသ်များကို ပြန်လည်ဝတ်ပြုပေးခွင့်မရှိသလို သူဆင်းရဲများအား ဂျုံအစရှိသည့် စားဖွယ်ရာများ ပေးကမ်းခြင်းသည်လည်း မပိုင်ပါ"ဟု အောက်ပါအတိုင်းရေးသားထားသည်ကို တွေ့ရပေသည်။

قال الحافظ ابن حبان في صحيحه بعد أن روى الحديث ما نصه: في قوله صلى الله عليه وسلم: "فليصلها إذا ذكرها لا كفارة لها إلا ذلك" دليل على أن الصلاة لو أداها عنه غيره لم تجز عنه، إذ المصطفى صلى الله عليه وسلم قال:"لا كفارة لها إلا ذلك" يريد إلا أن يصليها إذا ذكرها. وفيه دليل على أن الميت إذا مات وعليه صلوات لم يقدر على أدائها في علته لم يجز أن يعطى

الفقراء عن تلك الصلوات الحنطة ولا غيرها من سائر الأطعمة والأشياء.اهـ

ရှာဖိအီပညာရှင်ကြီး ရှိင်ခ်ဇကရီယာ အလ်အာန်စွာရီ رحمه الله ကလည်း သေဆုံးသူအပေါ် အိအ်သိကာဖ်သော်လည်းကောင်း၊ စွလားသ်သော်လည်းကောင်း တာဝန်ရှိခဲ့ပါက ကဇွာပြန်ဖတ် ပေးခွင့်မရှိသလို ဖိဒ်ယဟ်လည်းပေးခွင့်မရှိပေ။ ထို့ပြင် ကာဒ္ဓီအိယားဇ် رحمه الله ၏အဆိုအရ ဤအချက်အပေါ် အိဂ်ျမာအ် ပညာရှင်များအကြားအကွဲအလွဲပင်မရှိကြောင်း အောက်ပါအတိုင်း ရေးသားထားသည်ကို တွေ့ရ၏။

وقال الشيخ زكريا الأنصاري الشافعي في (أسنى المطالب) ممزوجا بالمتن ما نصه: "ولو مات وعليه صلاةٌ أو اعتكافٌ لم يقض ولم يفد عنه لعدم ورودهما، بل نقل القاضي عياض الإجماع على أنه لا يصلى عنه" اهـ.

وقال في مغني المحتاج شرح المنهاج، ممزوجا بالمتن: ( ولو مات وعليه صلاةٌ أو اعتكافٌ لم يفعل ) ذلك ( عنه ولا فدية ) له لعدم ورودها بل نقل القاضي عياضٌ الإجماع على أنه لا يصلى عنه. اهـ

ထို့အတူဟဒီးစ်ပညာရှင်ကြီးအိဗ်နိုဟဂျရ် ﷺ က မိမိ၏ဗုခါရီအကျယ်ပြန့်ကျမ်း ဖသ်ဟုလ်ဗာရီ၌ "စွလားသ်သည် ဖရည်စွလားသ်ဖြစ်စေ၊ စွန္နသ်စွလားသ်ဖြစ်စေ သေသူဘက်မှ သော်လည်းကောင်း၊ ရှင်နေသူဘက်မှသော်လည်းကောင်း မည်သူမျှ မည်သူ့ကိုယ်စား အစားဖတ်ပေးခွင့်မရှိကြောင်းနှင့် ယင်းအချက်ပေါ်ဖိကဟ်ပညာရှင်များအကြား အကွဲအလွဲပင်မရှိ အိဂျ်မာအ်ဖြစ်ထားခဲ့ပြီးဖြစ်ကြောင်းမိန့်ကြားထားသည့် အိဗ်နိုဗသ်သွာလ်၏အဆိုကို ယခုလို ဖော်ပြထားသည်ကိုလည်း တွေ့ရ၏။

قال ابن بطال في شرحه على صحيح البخاري-كتاب الإيمان والنذور-: وأجمع الفقهاء أنه لا يصلى أحد عن أحد فرضا وجب عليه من الصلاة ولا سنة، لا عن حى ولا عن ميت. اهـ ونقله عنه الحافظ ابن حجر في فتح الباري.

ရှိုင်ခ် ဗင်န်ဗားဇ်က ရေးသားတင်ပြသည်။

لَايَجُوْزُ أَنْ تُقْضَى الصَّلاةُ عَنِ المَيِّتِ سَوَاءً تَرَكَهَا بِعُذْرٍ أَوْ بِغَيْرِ عُذْرٍ وَلَا أَنْ يُصَلَّى بِنِيَّةٍ أَنْ يَكُوْنَ ثَوَابُ الصَّلاةِ لِلمَيِّتِ لِأَنَّ الشَّرْعَ

لَمْ يَرِدْ بِذَلِكَ وَقَدْ قَالَ النَّبِيُّ ﷺ مَنْ عَمِلَ عَمَلًا لَيْسَ عَلَيْهِ أَمْرُنَا فَهُوَ رَدٌّ

သေသူကိုယ်စား စွလားသ်များကို ကဇ္ဇာလုပ်ပေးခြင်း မပိုင်ပေ။ သေသူသည် အကြောင်းတစ်ခုခုကြောင့် ယင်းစွလားသ်များ လွတ်ခဲ့သည်ဖြစ်စေ၊ အကြောင်းမရှိဘဲ လွတ်ခဲ့သည်ဖြစ်စေအတူတူပင်။ သေသူအတွက် ဆဝ်ါးဗ်ပို့သရန် အတွက်လည်း စွလားသ်ဝတ်ပြုပေးခြင်း မပိုင်ပေ။ အကြောင်းမှာ ဤသည်နှင့် စပ်လျဉ်းပြီး တရားတော်တွင် မည်သည့်အထောက်အထားမျှ မရှိပေ။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူခဲ့သည်။ ငါတို့၏ သာသနာတွင်မရှိသောအရာကို လုပ်ဆောင်သူသည် ပယ်ချခြင်းခံရမည်။[၅၅]

၅၅ - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် ၁၇၁၈။ فتاوى اللجنة الدائمة ကျမ်း၊ ၉ - ၆၅။

## သေသူအတွက် ဆိုးကျိုးဖြစ်စေမည့်လုပ်ရပ်များ

တချို့သောလုပ်ရပ်များကြောင့် သေသူအတွက် ဆိုးကျိုးပါဖြစ်ပေါ်စေသည်။ ထိုလုပ်ရပ်များကြောင့် သေသူ၏ ပြစ်ဒဏ်တွင် ထပ်လောင်းပြီးတိုးပွားသွားစေနိုင်ပေသည်။ ဤသည် အလွန်ပင် ကြောက်စရာကောင်းသောကိစ္စရပ် ဖြစ်သည်။ လောကတွင်မရှိတော့ဘဲ ကွယ်လွန်သွားခဲ့သည့်တိုင် အပြစ်ဒဏ်များဆက်လက်တိုးပွားနေခြင်းသည် လွန်စွာမှ ကြောက်စရာကောင်းလှသည်။ ထို့ကြောင့် လူတိုင်းသည် မိမိကွယ်လွန်သေဆုံး ပြီးနောက်တွင် မိမိ၏ အဆင့်အတန်း၊ အကျိုးကုသိုလ်များကိုသာ တိုးပွားစေမည့်လုပ်ရပ်များကို ချန်ရစ်ခဲ့ဖို့ ကြိုးစားအားထုတ်ရမည်။ မိမိ၏ ပြစ်ဒဏ်များကို တိုးပွားစေမည့်လုပ်ရပ်များမှာ ရှောင်ကြဉ်နိုင်ရန် ကြိုးစားအားထုတ်ရပေမည်။

အောက်တွင် သေသူ၏ ပူဆွေးသောကများ၊ ဒုက္ခများကို ထပ်လောင်းတိုးပွားစေမည့်လုပ်ရပ်များကို တင်ပြလိုက်ပါသည်။

## ငိုချင်းချခြင်း

လူတစ်ဦးသေဆုံးသည့်အခါ ကျန်ရစ်မိသားစုများက အော်ဟစ်ငိုကြွေးခြင်း၊ ငိုချင်းချခြင်းတို့သည် သေသူအတွက် ဆိုးကျိုးဖြစ်စေမည့်လုပ်ရပ်ဖြစ်သည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။

إِنَّ المَيِّتَ لَيُعَذَّبُ بِبُكَاءِ أَهْلِهِ عَلَيْهِ

အမှန်စင်စစ် သေသူ၏ မိသားစုဝင်များ၏ တချို့သောငိုကြွေးမှုကြောင့် သေသူသည် အပြစ်ဒဏ်ခံရသည်။[၅၆]

ဤဟဒီးဆ်တော်နှင့်စပ်လျဉ်းပြီး ပညာရှင်များ အဆိုကွဲပြားကြသည်။ ကျန်ရစ်မိသားစု၏ မည်သည့်ပုံစံမျိုးနှင့်ဖြစ်စေ ငိုကြွေးခြင်းကြောင့် အပြစ်ခံရသည်လော၊ သို့မဟုတ် တချို့သောငိုကြွေးခြင်းကြောင့် အပြစ်ခံရသည်လော။ အလ္လာမဟ် အလ်ဗာနီက ရေးသားတင်ပြသည်။ "ဤသည်နှင့်စပ်လျဉ်းပြီး ပညာရှင်များ၏ အဆိုအမိန့် (၈)ခုရှိသည်။ ယင်းတို့အနက်မှ အဆိုနှစ်ခုသည် အမှန်တရားနှင့် အနီးစပ်ဆုံးဖြစ်သည်။ ပထမအဆိုမှာ ဟဒီးဆ်တော်အား သေသူသည် မကွယ်လွန်မီအလျင်

---

၅၆ - ဗုခါရီကျမ်း၊ နံပါတ် ၁၂၈၆။

မိမိသေသွားပါက ငိုချင်းချရန် မှာတမ်းပြုခဲ့ခြင်း၊ သို့မဟုတ် မိသား စုဝင်များသည် သူသေသွားလျှင် ထိုသို့လုပ်ကြမည်ကို သိသိကြီးနှင့် မတားခဲ့သည့်အခါ ပြစ်ဒဏ်ခံရမည်ကို ဆိုလို သည်ဟု ကောက်ယူရမည်။ ထို့ကြောင့်ပင် အဗ်ဒုလ္လာဟ်ဗင်န် မုဘာ ရက် ﷺ က မိန့်ဆိုသည်။ အကယ်၍ ထိုသူသည် မသေမီ အလျှင် ငိုချင်းချခြင်းမှ တားမြစ်ခဲ့သည်ရှိသော် သူသေပြီးနောက် လူတို့ ငိုချင်းချလျှင်လည်း အပြစ်ဒဏ်ခံရမည်မဟုတ်ပေ။[၅၇]

ရှိုင်ခ်အမီးနုလ္လာဟ်ပိရှာဝရီကလည်း ထိုအတိုင်းနည်း နည်း ဆွေးနွေးတင်ပြထားသည်။[၅၈]

အထက်ပါဟဒီးဆ်တော်ကို တင်ပြရာတွင် အိမာမ်ဗု ခါရီ ﷺ ၏ ခေါင်းစဉ်တပ်ပုံကို ကြည့်ခြင်းအားဖြင့်လည်း အိမာမ် ဗုခါရီ ﷺ ၏ ရပ်တည်ချက်သည်လည်း အလ္လာမဟ်အလ်ဗာနီ တင်ပြခဲ့သည့်အတိုင်းဟု သိနိုင်ပေသည်။

---

၅၇ - အဟ်ကာမုလ်ဂျနာအိဇ်ကျမ်း၊ နံပါတ် ၄၁။

၅၈ - فَتَاوَى الدين الخالص ကျမ်း၊ တွဲ - ၇၊ စာ ၄၃၆။

# မပြုပိုင်သောနည်းလမ်းတစ်ခုခုကို တီထွင်ပြသခဲ့ခြင်း

အကယ်၍ လူတစ်ဦးသည် တရားတော်တွင် မပြုပိုင်သော၊ ဟာရာမ်ဖြစ်သော လမ်းစဉ်တစ်ခုခုကို တီထွင်ခဲ့မည်။ သူသေပြီးနောက်တွင်လည်း လူတို့က ထိုလမ်းစဉ်အတိုင်း ကျင့်သုံးနေလျက်ရှိပါမူ တီထွင်သူသည် ထိုကျင့်သုံးသူများ၏ အပြစ်အကုသိုလ်ကို ညီတူညီမျှ ရရှိနေမည်ဖြစ်သည်။ ဥပမာ- အိမ်ထောင်ဦးစီးလုပ်သူသည် ပတ်ဝန်းကျင်တွင် ပြန့်နှံ့လျက်ရှိသော ဗိဒ်အသ်တစ်ခုခုကို မိမိ၏ အိမ်အတွင်း သို့ ယူလာပြီး ထိုအတိုင်း လုပ်ဆောင်စေခဲ့မည်။ သူ၏ မိသားစု ဝင်များသည် သူသေပြီးနောက်လည်း ထိုဗိဒ်အသ်ကို ဆက်လက် ကျင့်သုံးနေကြသည်ဆိုလျှင် မိသားစုဝင်များရရှိမည့် အပြစ်ဒဏ်ကို ထိုအိမ်ထောင်ဦးစီးလုပ်သူလည်း ခံရမည်ဖြစ် သည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။

مَنْ سَنَّ فِيْ الإِسْلَامِ سُنَّةً سَيِّئَةً فَلَهُ وِزْرُهَا وَوِزْرُ مَنْ عَمِلَ بِهَا بَعْدَهُ مِنْ غَيْرِ أَنْ يَنْقُصَ مِنْ أَوْزَارِهِمْ شَيْءٌ

"မည်သူမဆို အစ္စလာမ်သာသနာတွင် မကောင်းသောနည်းလမ်းတစ်ခုကို တီထွင်ပြသခဲ့ပါက ထိုသို့ပြသခြင်း၏ ဆိုးကျိုးအကုသိုလ်ကိုလည်းခံရမည်။ သူ့နောက်တွင် ထိုနည်း

လမ်းအတိုင်း ကျင့်သုံးသူ၏ အကုသိုလ်များကိုလည်း ခံရမည်။ သူတို့ တစ်ယောက်တိုင်း၏ အပြစ်အကုသိုလ်တွင် လျော့နည်းမည်လည်း မဟုတ်ပေ။"[၅၉]

ဗုခါရီကျမ်းလာဟဒီးဆ်တော်တစ်ပုဒ်မှ ပိုမို၍ပင် ရှင်းလင်းစွာ သိရပေသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ကိယာမသ်နေ့တိုင် မတရားအသတ်ခံရသည့် အမှု တိုင်းတွင် အာဒမ် عليه السلام ၏သား ကာဗီးလ်လည်း လူသတ်မှု၏ ပြစ်ဒဏ်ကို ခံရမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် လူသတ်သည့်လမ်းစဉ်ကို သူက စတင်၍ တီထွင်ပြသခဲ့ခြင်းကြောင့် ဖြစ်သည်။"[၆၀]

အထက်ပါဟဒီးဆ်တော်များအရ လူတိုင်းသည် မိမိကွယ်လွန်သေဆုံး ပြီးနောက်တွင် မိမိ၏ အဆင့်အတန်း၊ အကျိုးကုသိုလ်များကိုသာ တိုးပွားစေမည့်လုပ်ရပ်များကို ချန်ရစ်ခဲ့ဖို့ ကြိုးစားအားထုတ်ရမည်။ မိမိ၏ ပြစ်ဒဏ်များကို တိုးပွားစေမည့် လုပ်ရပ်များမှာ ရှောင်ကြဉ်နိုင်ရန် ကြိုးစားအားထုတ်ရပေမည်။

အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား စွဒကဟ်ဂျာရီယဟ်များလုပ်နိုင်ပြီး ဂျန္နသ်သုခဘုံတွင် အဆင့်အတန်းများမြှင့်တင်ပေးမည့် အကြောင်းခံဖြစ်စေသောအမလ်လုပ်ရပ်များကို လုပ်နိုင်စွမ်း ချီးမြှင့်တော်မူပါစေ။ အာမီးန်

၅၉ – မွတ်စ်လင်မ်ကျမ်း၊ ၁၀၁၇။

၆၀ – ဗုခါရီကျမ်း၊ ၃၃၃၅။

## သာသနာ့ပညာရှင်များထံ ပန်ကြားချက်

"ကွယ်လွန်သူများထံ ကုရ်အာန်၊ စွန္နဟ်နှင့်အညီ စဝါးဗ်ပို့သနည်းများ" ခေါင်းစဉ်ဖြင့် ကျွန်ုပ်၏ ဆွေးနွေးတင်ပြချက်သည် အလ္လာဟ်အရှင်မြတ်၏ အလိုတော်ဖြင့် ပြီးဆုံးပါပြီ။ ဤစာအုပ်ငယ်တွင် ကောင်းခြင်းများတွေ့ရသည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်ဘက်တော်မှသာ ဖြစ်သည်။ အားနည်းချက်များ တွေ့လျှင်မူ စာရေးသူ၏ အသိပညာအားနည်းမှုကြောင့်သာ ဖြစ်ပါသည်။

ထို့ကြောင့် သာသနာ့ပညာရှင်များထံ ပန်ကြားလိုသည်မှာ ဤစာအုပ်ငယ်တွင် အမှားတစ်စုံတစ်ရာ၊ အားနည်းချက်တစ်စုံတစ်ရာတွေ့လျှင် ကျွန်တော့်အား အသိပေးစေလိုပါသည်။ ကျွန်တော်အနေနှင့် ကျေးဇူးလည်း တင်ပါမည်။ အကယ်၍ စာအုပ်ငယ်လေးသည် ကောင်းမွန်သည်ဟု ခံစားရလျှင်လည်း စာဖတ်သူတို့၏ ချီးမွမ်းစကားများသည် စာရေးသူနှင့် ဖြန့်ချိသူတို့ကို အားတက်စေပါသည်။

فجزاكم الله أحسن الجزاء

ဆရာ ရှိုင်ခ်ရှာဟိဒ်

ရန်ကုန်မြို့၊ ၂၀၂၂၊ ဇန္နဝါရီလ ၅ ရက်။